# မာတိကာ (ခေါင်းစဉ်အညွှန်း)



## ဟာဇရသ်မော်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်
## (နဒ်ဝီ၊အဗုလ်ဟစနီ၊မဇ္ဇာဟေ့ရီ)၏ ရင်တွင်းစကား

الحمد لله الأكرم الذي خلق الإنسان وكرم ، وعلمه من البيان ما لم يعلم .

စာရှုသူလက်ဝယ်ရှိ "အစ္စလာမ့် နည်းကျ ရှိသေသမှုအလှ" အမည်ဖြင့် ဤကျမ်းငယ်သည် ကမ္ဘာကျော် ဟဒီးဆ်ပါမောက္ခကြီး တစ်ဦးဖြစ်သော ရှိုင်ခ် အဗ်ဒုလ် ဖဿလားဟ် အဗူဂ္ဂဒ္ဒါဟ် رحمه الله သခင်ကြီး အရဗီဘာသာဖြင့် ရေးသားပြုစုခဲ့သော من أدب الإسلام စာအုပ်အား ဘာသာ ပြန်ဆိုထားခြင်း ဖြစ်သည်။ မျိုးဆက်သစ် ကလောင်ရှင် မော်လာနာ ဟာဖိဇ် မုဟမ္မဒ် ဇဖရ် (အလ်ကောင်ဆရီ) က မြန်မာဆန်ဆန် ဘာသာပြန်ဆိုထားခြင်းဖြစ်သည်။

မူရင်းကျမ်းသည် အစ္စလာမ့်ကမ္ဘာတနံတလျားတွင် ကျော်ကြား ပျံ့နှံ့ခဲ့ပြီး ဤကဏ္ဍအတွက် ဦးဆောင်လျက်ရှိနေပါသည်။ ဆရာသခင်ကြီးက အကောင်းဆုံး လူနေမှုစနစ်အား အစ္စလာမ်က မည်သို့မည်ပုံ ပြဆိုထားသည်ကို ကုရ်အာန် ဟဒီးဆ်မှ ကောက်နှုတ်ကာ တင်ပြထားပါသည်။

ဤကျမ်းငယ်၏ ထူးခြားချက်မှာ...

၁။ ခိုင်လုံတိကျသော ဆင့်ပြန်ချက်များကိုသာ တင်ပြထားခြင်း။

၂။ ဘဝ၏ အခြေခံကဏ္ဍများအား အစ္စလာမ့်နည်းကျ တည်ဆောက်နည်းများ ကို တင်ပြထားခြင်း။

## မော်လာနာ ဇဖရ် (အလ်ကောင်ဆရီ) (သို့) မြန်မာ့စာပေနယ်ပယ်က အားကိုးထိုက်သည့် ကလောင်တစ်ချောင်း

အမိမြန်မာနိုင်ငံတော်မှ မွတ်စ်လင်မ်ညီနောင်များ အကျိုးခံစားနိုင်ရန် (معهد الإحسان لتعليم العلوم الإسلامية )(မြစ်ငယ်မြို့)၏ ဆရာတစ်ပါးဖြစ်သူ ဟာဖိဇ်မော်လာနာ မုဟမ္မဒ် ဇဖရ် (အလ်ကောင်ဆရီ)က လှလှပပဘာသာပြန်ဆိုပေးခဲ့ပါသည်။ မူရင်းအာဘော်မပျက် ခံစားချက်များကိုပါ ပြန်ဆိုပေးထားသည်မှာ ဆရာသခင်အား အရှင်မြတ်ချီးမြင့်ထားသော ဘာသာပြန်ပါရမီဟူပင်ဆိုရပေမည်။ မော်လာနာ၏ ဘာသာပြန်စာမူအား အစမှအဆုံးတိုင်ဖတ်ကြည့်ရာ ဘာသာပြန်နယ်ပယ်တွင် ဒုတိယခြေလှမ်းဖြစ်သော်လည်း အလွန်ပင် အသက်ဝင်လှသည့် ဘာသာပြန်ထားခြင်းဖြစ်ကြောင်း တွေ့ရှိရသည်။

မော်လာနာဇဖရ်ဆပ်သည် ကျောင်းသားဘဝကတည်းပင် အရဗီစာပေကို လွန်စွာချစ်မြတ်နိုးသည့် ကျောင်းသား တစ်ဦးဖြစ်ခဲ့သည်။ အရဗီကိုမိမိဘဝ၏ အစိတ်အပိုင်းတစ်ခုအဖြစ် ခံယူထားသူဖြစ်သည့် အားလျော်စွာအသွေးအသားထဲတွင်ပင် အရဗီချစ်စိတ်များ စိမ့်ဝင်နေသူဖြစ်ပါသည်။ အရဗီစာပေအနုပညာ၊ အလင်္ကာတို့ကို ပါရဂူမြောက် တတ်ကျွမ်းသည်အထိ ကြိုးစားအားထုတ်နေသည့် ပညာရှင်တစ်ပါးလည်းဖြစ်သည်။ လက်ရှိကာလတွင်လည်း မိမိ၏ဆရာများဖြင့် ဆက်သွယ်သည့် အခါတိုင်း အရဗီဘာသာစကားဖြင့်သာ ဆက်သွယ်လေ့ရှိသည်။

ကျွန်ုပ်တို့၏ ဆရာသခင်တစ်ပါးဖြစ်သော အလ်ဟားဂ်ျ ဟဇရသ် မော်လာနာ စိုင်ဖွလ္လာဟ်ဆပ် ၉ ကွယ်လွန်ချိန် မော်လာနာဇဖရ် ရေးသားလိုက်သည့် ဝမ်းနည်းခြင်းသဝဏ်လွှာသည် မော်လာနာ၏ အရဗီစာပေနယ်ပယ်တွင် ပိုင်ဆိုင်ထား သည့် အဆင့်အတန်းကို သက်သေထူနေပါသည်။

ယခုလည်း အွန်လိုင်းပေါ်တွင် ခေတ်သစ်အရဗီဝေါဟာရများကို မြန်မာဆန်ဆန် ပြန်ဆိုခြင်း အတတ်ပညာကို မျိုးဆက်သစ်လူငယ်များအား လက်ဆင့်ကမ်းပေးနေပါသည်။ မော်လာနာ၏ ကြိုးပမ်းမှုတိုင်းကို အရှင်မြတ် လက်ခံ သဘော တူတော်မူပါစေ။ အာမီးန်

## ကျေးဇူးတင်ခြင်း မှတ်တမ်း

နိဂုံးချုပ်အနေဖြင့် ဤစာအုပ်အားပြုစုခဲ့သည့် ကျေးဇူးရှင် ဆရာသခင်ကြီး ရှိုခ်အဗ်ဒုလ်ဖဿာဟ် အဗူဂွဒ္ဒါဟ် (ရဟ္) ၊ မြန်မာဘာဖြင့် ပြန်ဆိုပေးခဲ့သည့် မော်လာနာဇဖရ်ဆပ်၊ မေတ္တာစေတနာ အပြည့်ဖြင့် မျက်နှာဖုံး ဒီဇိုင်းဆွဲ ပေးသော မော်လာနာ မုဟမ္မဒ် (အလ်ကောင်ဆရီ)တို့အား မှတ်တမ်းတင် ဂုဏ်ပြုအပ်ပါသည်။

မြင့်မြတ်တော်မူသော အရှင်မြတ် ဤစာအုပ်ငယ်ကို အထူးလက်ခံ သဘောတူတော်မူပါစေ။ ဤစာအုပ်ကို ဘာသာပြန်ဆိုပေးသည့် မော်လာနာ ဇဖရ်၏ သက်တမ်းကို စိတ်၏ချမ်းသာခြင်း၊ ကိုယ်၏ကျန်းမာခြင်း နှင့်အတူ သာသနာ့အကျိုးများသယ်ပိုးခြင်းဖြင့် ခမ်းနားသိုက်မြိုက် စေတော် မူပါ။

ဤစာအုပ်ဖြစ်မြောက်ရေးတွင် အုပ်တစ်ချပ်သဲတစ်ပွင့် ပါဝင်ခွင့်ရခဲ့သူများနှင့် ဤစာအုပ်မှ အကျိုးခံစားကြသည့် စာဖတ်ပရိသတ်များအားလုံးကို

အရှင်မြတ် ကောင်းသော အစားများ ချီးမြင့်တော်မူပါစေ၊ အကျိုးထူးများ ဆွတ်ခူး နိုင်းပါစေဟု ရင်နှင့်အမျှ ဆုမွန်ဒိုအာပြုရင်းဖြင့်…………………

ဟစ်ဂျ်ရီ (၁၄၄၅)ခု၊ ဆွဖရ်လ(၁၂)ရက်

30/8/2023 (Wednesday)

မလေးရှားနိုင်ငံ၊ ကွာလမ်လမ်ပူမြို့

# လေးစားအပ်သောစာရှုသူတို့

အစ္စလာမ်သာသနာတော်သည် မွတ်စ်လင်မ် တစ်ဦးတိုင်းအတွက် ပြီးပြည့်စုံလှသော ဘဝလျှောက်လမ်းပုံ နည်းစနစ်များကို သတ်မှတ်ပြဋ္ဌာန်းပေးထားပါသည်။ ယုံကြည်မှု၊ ခဝပ်စည်းကပ်မှု၊ အပေးအယူ၊ လူမှုဆက်ဆံရေး၊ စာရိတ္တစသဖြင့် ကဏ္ဍအသီးသီး၏ လမ်းညွှန်ချက်များဖြင့် မိမိဘဝကို စီချယ်ထားပါမူ မြင်သူတကာ အားကျမည်မှာ အကြွင်းမဲ့ယုံကြည်စရာပင်။

ယခုစာရှုသူတို့လက်ဝယ်တွင်ရှိသော ကျမ်းငယ်သည် ပညာ့ရှင်ကြီးရှိုက်ခ် အဗ်ဒွလ်ဖသ်သားဟ် (ရဟ္မ) ရေးသားချယ်မှုန်းထားသော (مِنْ أَدَبِ الإِسْلاَمِ) ကျမ်း၏ဘာသာပြန်ဖြစ်သည်။ ကျေးဇူးရှင်ဆရာသခင် ဟဇရသ် မောင်လာနာ မွဖ်သီအာစွင်းမ် (နဒ်ဝီ) ၏ လမ်းညွှန်မှုဖြင့် ကျွန်တော်သည် ဤကျမ်းငယ်အား ဘာသာပြန်ခဲ့ပါသည်။ ဆရာသခင် သည် မအားလပ်သည့်ကြားမှ ဘာသာပြန်ထားသောစာမူကို မေတ္တာ စေတနာအပြည့်ဖြင့် စိစစ်ပေးပြီး အမှာစာအားလည်း ဂုဏ်ယူဝမ်း မြောက်စွာ ချီးမြင့်ပေးခဲ့ပါသည်။ အလ္လာဟ် အရှင်မြတ် ဆရာသခင်၏ သက်တမ်းကို စိတ်၏ချမ်းသာခြင်း၊ ကိုယ်၏

ကျန်းမာခြင်းနှင့်အတူ သာသနာ့အကျိုးများ သယ်ပိုးခြင်းဖြင့် ခမ်းနား သိုက်မြိုက်စေတော်မူပါ။

နိဂုံးချုပ်အနေဖြင့် မူရင်းကျမ်းရှင် ရှိုက်ခ်အလ္လာမာဟ် အဗ်ဒွလ် ဖသ်သားဟ် (ရဟေ့) သခင်၊ မေတ္တာအပြည့်ဖြင့် အမှာစာ ချီးမြင့်ပေးသော ဆရာသခင် ဟာဇရသ်မောင်လာနာ မွဖ်သီမိုဟမ္မဒ် အားစွင်းမ် (နဒ်ဝီ)၊ မျက်နှာဖုံးဒီဇိုင်းဆွဲပေးသော ဆရာသခင် မောင်လာနာ မိုဟမ္မဒ် (အလ်ကောင်စရီ)၊ ကွန်ပျူတာစာစီပေးခဲ့သော معهدالإحسان لتعليم العلوم الإسلامية (မြစ်ငယ်မြို့) တတိယတန်းတွင် ပညာသင်ယူနေသည့် ကျောင်းသူတပည့်များ၊ အထူးသဖြင့် စနစ်တကျ အချောသပ်စာစီပေးသော ကျောင်းသူတပည့် နဂ်ျမာဟ်ဘီ၊ တို့အား ကျေးဇူးမှတ်တမ်း တင်အပ်ပါသည်။

အလ္လာဟ်အရှင်မြတ် ဤကျမ်းငယ်အား အထူးသဘောတူ လက်ခံပြီး အွမ္မသ်ထု တစ်ရပ်လုံးကို အကျိုးဖြစ်ထွန်းစေတော်မူပါ။

(အာမီးန်)

✍ မိုဟမဒ်ဇဖ်ရ် (အလ်ကောင်ဆရီ)

ဟစ်ဂျ်ရီ- ၁၄၄၅ခုနှစ်၊ ဆွဖရ်လ၊ ၇ရက်
ခရစ်သက္ကရာဇ် -၂၄.၈.၂၀၂၃

# ရှိခ်အလ္လာမဟ် အဗ်ဒွလ်ဖသ်သားဟ် အဗုဂ္ဂဒါဟ် (ရဟော့) သခင်၏ အမှာစာ

ဤစာတန်းငယ်လေးသည်“အစ္စလာမ့်နည်းကျရှိသေမှုလှ” ဟုအမည်တွင်သော စာတန်းငယ်လေး တစ်စောင်ဖြစ် သည်။ ကျွန်တော်သည် ၎င်းစာတမ်းငယ်လေး၌ အစ္စလာမ် သာသနာတော်၏ အရေးကြီးသောစည်းကမ်းများကို ရွေးချယ်ပြီးစုစည်း တင်ပြခဲ့ပါသည်။ ကျွန်တော်သည်ညီနောင်အများစုအား တွေ့ရသည်မှာ ၎င်းတို့သည် ထို အစ္စလာမ် သာသနာတော်၏ စည်းကမ်းများကို ဥပေက္ခာ ပြုထားပြီး မှားယွင်းစွာနားလည်သဘောပေါက်ထားကြသည်။

ထို့ကြောင့် ကျွန်တော်သည် ညီနောင်များအား သတိပေးနှိုးဆော်သည့်အနေဖြင့် ဤစာတမ်းငယ် လေးကိုစုစည်း တင်ပြခဲ့ပေသည်။ မိမိကိုယ်နှိုက်သည် ယင်းစည်းကမ်းများအား တင်းပြည့်ကျပ်ပြည့် လိုက်နာဆောင်ရွက်သူဟုမဆိုလိုပါ။ စင်စစ် ဤသည် အမှန်တရားပေါ်၌ ကြံ့ခိုင်စွာတည်ရှိကြရန် အချင်းချင်း ဆုံးမခြင်းသာဖြစ်သည်။ ထို့အတူ” အသင်တို့ သတိပေး နှိုးဆော်ကြလေကုန်။ အကြောင်းမှာ သတိ

ပေးနိုးဆော်ခြင်းသည် အီမာန်သက်ဝင် ယုံကြည်သူတို့ကို အကျိုးဖြစ်ထွန်းစေသောကြောင့်ပင်။" ဟူသော အရှင်မြတ်၏ အမိန့်တော်အား လိုက်နာဆောင်ရွက်ခြင်းလည်းဖြစ်သည်။

ဤနိုးဆော်လွှာလေးအား အကြောင်းခံပြီး ကျွန်တော်နှင့် ညီနောင် အပေါင်းကို အကျိုးဖြစ်ထွန်းစေတော်မူပါဟု အရှင်မြတ်ထံတော်ပါး၌ ဆုမွန်ကောင်း တောင်းအပ်ပါသည်။

# ပြည့်စုံကုံလုံသောသာသနာ

အစ္စလာမ်သာသနာတော်၌ လူမှုဘဝကဏ္ဍ အသီးသီး တို့နှင့် သက်ဆိုင်သော စည်းစနစ်များ၊ ထွတ်မြတ်မှုများ၊ တည်ရှိပါသည်။ လူကြီး၊ လူငယ်၊ အမျိုးသား၊ အမျိုးသမီ၊ စသဖြင့် အလွှာပေါင်းစုံ၌ ရှိကြသောသူတိုင်းအား မိမိတို့လူမှုဘဝ၏ အခြေအနေ အရပ်ရပ်တိုင်း တွင် ၎င်းစည်းစနစ်များနှင့် ထွတ်မြတ်မှုများဖြင့် ဆင်မြန်းအပ်ပေသည်။ ကိုယ်တော်မြတ် ﷺ က ဤသို့မိန့်ဆိုထားသည်။" အမျိုးသမီးများ သည် အမျိုးသားများ၏ ကိုယ်ပွားများဖြစ်ကြသည်။"

ထို့ကြောင့် အစ္စလာမ်သာသနာတော်၏ စည်းကမ်းများနှင့် အညီဘဝကို ဆောက်တည်ရန် အမျိုးသား၊ အမျိုးသမီးတိုင်း အပေါ်၌ တာဝန်ရှိပေသည်။ အဘယ်ကြောင့်ဆိုသော် မွတ်စလင်မ် အမျိုးသားနှင့် အမျိုးသမီး နှစ်ဦးတို့ ပေါင်းဖက်၍ အစ္စလာမ်ကို သိနားလည်သော မွတ်စလင်မ်ပတ်ဝန်းကျင်တစ်ခုဖြစ်တည်လာသည့် အတွက်ကြောင့်ပင် ဖြစ်သည်။ ဤနည်းအတိုင်းပင် လူသားအချင်းချင်း သဟဇာတ ရရှိ ရန်နှင့် မုအ်မင်န်တစ်ဦး၏ ပြည့်ဝသော အချင်းလက္ခဏာများ ဖြစ်ပေါ်

လာစေရန် အစ္စလာမ် သာသနာတော်သည် ၎င်းစည်းကမ်းချက်များ ဘက်သို့ ဖိတ်ခေါ်ထားပေသည်။

၎င်းစည်းကမ်းများ နှင့် ထွတ်မြတ်မှုများအား ဆင်မြန်းခြင်း အား ဖြင့်မွတ်စလင်မ်တစ်ဦး၏လုပသော ဘဝလျှောက်လမ်းမှု ဖြစ်ပေါ်စေ ခြင်းနှင့် လူသားတို့၏ နှလုံးသားထဲ၌ ချစ်စိတ်များ ပေါက်ဖွားလာစေ ခြင်းတို့တွင် သံသယ ဝင်ဖွယ်ရာမရှိပါ။

ရှေ့တွင် တင်ပြမည့် စည်းကမ်းချက်များသည် အစ္စလာမ် သာသနာတော်၏ အနှစ်ချုပ် ရည်ရွယ်ချက်များအနက်မှ ဖြစ်သည်။ ထို့ကြောင့် ၎င်းစည်းကမ်းချက်များသည် လူမှုဘဝလျှောက်လမ်းရေး ကဏ္ဍတစ်ခုတည်းနှင့်ပင် သက်ဆိုင်သည်ဟု မယူဆအပ်ပေ။ ထို့အတူ မည်သူတစ်ဦးကမျှ ၎င်းစည်းကမ်းချက်များကို ဆောင်ရွက်လိုသည့် အခါဆောင်ရွက်၍ စွန့်လွှတ်လိုသည့်အခါ စွန့်လွှန့်၍မရပါ။

# အေမာမ်ကရာဇီ၏မိန္႔ဆိုခ်က္

အေမာမ်ကရာဇီက "ဖူးရွက္" ဟုမည္ေသာ မိမိ၏က်မ္း၌ မိန္႔ဆိုထားသည္မွာ"စည္းကမ္းႏွင့္တကြ ေဆာင္ရြက္ေသာ လုပ္ရပ္တို႔သည္ စည္းကမ္းမပါရွိဘဲ ေဆာင္ရြက္ေသာလုပ္ရပ္တို႔ထက္ သာပို၍ တန္ဖိုးရွိေပသည္။ ထို႔အတူ စည္းကမ္း အနည္းငယ္သာရွိေသာ သူသည္ စည္းကမ္းမရွိဘဲ လုပ္ငန္းေပါင္းမ်ားစြာကို ေဆာင္ရြက္ေသာသူထက္ ပို၍မြန္ျမတ္ပါသည္"။

# ပညာရှင်ကြီးရိုပိုင်းမ်၏ဆုံးမစကား

ပညာရှင်ကြီး (ရိုပိုင်းမ်) က မိမိ၏သားတော်မောင်ကို ဆုံးမထားသည်မှာ-“အိုး…ချစ်သား… အသင်ရဲ့ လုပ်ဆောင်ချက်များကို ဆားအသွင်ပြောင်းပြီး အသင်ရဲ့ စည်းကမ်းရှိမှုတို့အား ဂျုံအဖြစ် ပြောင်းပါ။” ဆိုလိုသည်မှာ-ဂျုံနယ်ရာ၌ ဆားထက် ဂျုံက ပို၍များပြားနေ သကဲ့သို့ လုပ်ငန်းဆောင်ရာတွင်လည်း လုပ်ငန်းထက်စည်းကမ်းက သာပိုနေရမည်။ ထို့ကြောင့် စည်းကမ်းနှင့်အညီ နည်းပါးသော ကောင်းမှု ကုသိုလ်ကို ပြုကျင့်သည့်သူသည် စည်းကမ်းမပါရှိဘဲ မြောက်များစွာသော ကောင်းမှုကုသိုလ်အား ပြုကျင့်သည့် သူထက်ပို၍ မွန်မြတ်ပေ သည်”။

ယခုတင်ပြမည့် စည်းကမ်းအချို့ကို အမြင်အားဖြင့် မပြောပလောက်သည့် စည်းကမ်းများအဖြစ် သတ်မှတ်ပြီး သတိပေးနှိုးဆော်မှုပြုရန် မလိုအပ်ပေဟု ယူဆ၍မရပါ။ အဘယ်ကြောင့်ဆိုသော် ကျွန်တော်တို့၏ မွတ်စ်လင်မ် ညီနောင်များသည် ထိုသို့သော အသေးအဖွဲ့ စည်းကမ်းများအား လွဲမှားစွာ ဆောင်ရွက်နေကြသည့် အတွက်ကြောင့်ပင်ဖြစ်သည်။ ဤကဲ့သို့ ဆောင်ရွက်ခြင်းအားဖြင့် မွတ်စလင်မ် တစ်ဦး ဆင်မြန်းအပ်သော ထူးခြားဝိသေသများကို ထိခိုက်စေပါသည်။

# ကိုယ်တော်မြတ် ﷺ ရဲ့မိန့်ဆိုချက်

ကိုယ်တော်မြတ်ﷺ သည်လည်း ဤအချက်ဘက်သို့ ရည်ညွှန်း မိန့်ဆိုထားသည်။ (ထိုအခိုက် ဆွဟာဘာများသည် ကိုယ်တော်မြတ် ﷺ ၏ထံတော်ပါး၌ ရှိနေခဲ့ကြသည်။) "အိုး---ဆွဟာဗာတို့---အသင်တို့သည် မိမိတို့၏ ညီနောင်များထံသို့ သွားကြရမည့် သူများဖြစ်သည်။ ထို့ကြောင့် အသင်တို့သည် သေသပ်သော အဝတ်အစားများအား ဆင်မြန်း၍ ကောင်းမြတ်သော အစီးအနင်းများကို စီးနင်းကြပါလေ။ ဤသို့ဖြင့် အသင်တို့သည် လူပုံအလယ်၌ မိမိတို့၏ ထူးခြားဂိသေသများဖြင့်ပြိုးပြက်နေကြလေမည်။ အကြောင်းမူ အလ္လာဟ်ရှင်မြတ်သည် ညစ်ညမ်းခြင်းနှင့် ညစ်ညမ်းစွာ နေထိုင်ခြင်းကို နှစ်ခြိုက်တော်မမူပေ။

**▸ အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်နံပါတ် ၃၄၉**

ဤအတွက်ကြောင့် မွတ်စလင်မ်တစ်ဦး အထူးသတိပြုရမည့် အချက်မှာ-မိမိ၏ အပြင်ပိုင်း အဆင်းသဏ္ဍာန်အား အလှတရားများဖြင့် စီချယ်ထားရမည်ဟူသော အချက်ပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် လမ်းမှန်ကို ပြသတော်မူသော အရှင်ဖြစ်ပေသည်။

# အိမ်ဝင်အိမ်ထွက်ခြင်းဆိုင်ရာနည်းကမ်းဆောင်ရွက်မှုများ

## တံခါးကိုညင်သာစွာအဖွင့်အပိတ်လုပ်ခြင်း

အိမ်ဝင်အိမ်ထွက်ပြုသောအခါ တံခါးကိုပြင်းထန်စွာ အဖွင့်အပိတ် မပြုလုပ်လေနှင့်။ ဤသို့ ဆောင်ရွက်ခြင်းသည် နူးညံ့သိမ်မွေ့မှုကို ဖော်ဆောင်သော အစ္စလာမ်သာသနာနှင့် ဆန့်ကျင်ခြင်းပင် ဖြစ်သည်။ သို့ပါ၍ ညင်သာစွာ တံခါးကို အဖွင့် အပိတ်ပြုရမည် ဖြစ်ကြောင်း ကိုယ်တော်မြတ် ﷺ က ဤသို့ မိန့်ဆိုထားသည်။ "နူးညံ့သိမ်မွေ့ခြင်းသည် အရာတိုင်းအား အလှတရားများဖြင့် ပြိုးပြက်နေစေသည်။ ရုန့်ရင်းကြမ်းတမ်းခြင်းသည် အရာတိုင်းကို အကျည်းတန်မှုတို့ဖြင့် အုပ်မိုးထားသည်။

▸ **မွတ်စလင်မ်ကျမ်း**

# စလာမ်ပေး၍ဝင်ခြင်း

အိမ်ဝင် အိမ်ထွက် ပြုသည့်အခါ၊ အိမ်အတွင်း၌ ရှိနေကြသူတို့အား စလာမ်ပေး၍ အဝင်အထွက် လုပ်ရမည်။ သို့သော် အစ္စလာမ်က ပြဆို ထားသော (السَّلَامُ عَلَيْكُمْ وَرَحْمَةُ اللهِ وَبَرَكَاتُه) ဟူသည့် စာသားကို ရွတ်ဆို၍ စလာမ်ပေးရန် အရေးကြီးပေသည်။ ၎င်းပြင် (صَبَاحُ الْخَيْرِ)" ကောင်းသော နံနက်ခင်းပါ "(مَرْحَبًا)" ကြိုဆိုပါသည်" ဟူသော စာသားများဖြင့် စလာမ်ပေးခြင်း မပြုအပ်ပေ။ အကြောင်းမူ အစ္စလာမ့် နှုတ်ခွန်းဆက်သနည်းနှင့်ဆန့်ကျင်ပြီး တခြားနည်းစနစ်များကို ကျင့်သုံးခြင်းသည် အစ္စလာမ်နှင့် မွတ်စလင်မ်တို့၏ အထိမ်း အမှတ်တစ်ခုအား ဆိတ်သုန်းစေခြင်းကြောင့် ဖြစ်သည်။ ထို့အတူ ကိုယ်တော်မြတ် ﷺ က နှုတ်သဘောဖြင့်လည်းကောင်း၊ လက်တွေ့ သဘောဖြင့်လည်းကောင်း၊ သင်ကြားလမ်းညွှန်ပြခဲ့သော စွန္နသ်တော် တစ်ရပ်ကို တိမ်ကောစေခြင်း လည်းဖြစ်သည်။ ကိုယ်တော်မြတ် ﷺ ကိုယ်တော်တိုင် ဤစွန္နသ်တော်အား ဟဇရသ်အနတ်စ် သခင်ကြီးကို သင်ကြားပေးတော်မူခဲ့သည်။

ဟဇရသ် အနတ်စ်က မိန့်တော်မူသည်မှာ-ကိုယ်တော်မြတ် ﷺ သည် ကျွန်တော့်အား ဤသို့ မိန့်မြွက်တော်မူခဲ့သည်။"အို---ချစ်သား--- အသင် အိမ်ထဲဝင်သောအခါ အိမ်သူအိမ်သားများအား စလာမ်မေတ္တာ ပို့သပါ လေ။ ဤသို့ စလာမ်မေတ္တာပို့သခြင်းသည် အသင်နှင့်

အိမ်သူအိမ်သား များအပေါ်သို့ ကောင်းချီးမင်္ဂလာများ ကျရောက်စေသော အကြောင်းခံ ဖြစ်သည်။

သာဗေအီပညာရှင်ကြီး ဟဇရတ် ကသာဒါးက မိန့်ဆိုသည်မှာ- အိမ်ထဲဝင်သောအခါ မိမိအိမ်သူအိမ်သားများအား စလာမ်မေတ္တာ ပို့သပါ။ ၎င်းတို့သည် အသင်၏ စလာမ်မေတ္တာ ပို့သခြင်းကို ခံယူထိုက်ဆုံးသူများပင်ဖြစ်သည်။ ဟဇရတ်အဗူဟိုရိုင်ရာဟ် ဆင့်ပြန်တော်မူခဲ့သည်။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ- အကြင်မည်သူမဆို ထိုင်ဝိုင်းတစ်ခုခုသို့ ရောက်သောအခါ၌ လည်းကောင်း၊ ၎င်းထိုင်းဝိုင်းမှ ထပြန်သောအခါ၌လည်းကောင်း ထိုင်းဝိုင်း၌ ရှိကြသောသူများကို စလာမ်မေတ္တာပို့သပါ။ ထိုင်ဝိုင်းသို့ ရောက်ရှိသည့်အခါ စလာမ်မေတ္တာ ပို့သခြင်းသည် ထိုင်ဝိုင်းမှထပြန်သောအခါ စလာမ်မေတ္တာ ပို့သခြင်းထက် သာပိုမှု မရှိပါ။ (ဆိုလိုသည်မှာ နှစ်ခုစလုံးက အတူတူပင် ဖြစ်သည်။)

▶ **သိရ်မေဇီကျမ်း**

## အိမ်မဝင်ခင်အသိပေးခြင်း

အိမ်ထဲမဝင်မည်အလျင် အိမ်သူအိမ်သားများကို မိမိ ဝင်လာမည့်အကြောင်း ကြိုတင်အသိပေးရမည်။ အဘယ်ကြောင့်ဆိုသော် မိမိ၏ ရုတ်တရက်ဝင်လာခဲ့ခြင်းက အိမ်သူအိမ်သားများကို ထိန့်လန့်စေမည့် အကြောင်းခံဖြစ်သောကြောင့်ပင် ဖြစ်သည်။ ထို့အတူ အိမ်ထဲကို စုံစမ်းထောက်လှမ်းသော ပုံစံဖြင့် မဝင်ရပေ။ ဟဇရတ် အဗူအိုဗိုင်ဒါးဟ်

က ဤသို့မိန့်ဆိုခဲ့သည်။ “ဟဇရသ် အဗ်ဒွလ္လာဟ်ဗင်န်မဆ်အူးဒ်သည် အိမ်သူအိမ်သားများအား ၎င်းတို့သိရှိထားကြသော အရိပ်အကဲဖြင့် အသိပေး၍ အိမ်ထဲဝင်လေ့ရှိသည်။ စကားပြောဆိုခြင်း၊ ကျယ်လောင်စွာ အသံထုတ်ခြင်းတို့သည်လည်း ထိုအရိပ်အကဲများအနက်မှဖြစ်ကြသည်။

အေမာမ် အဟ်မဒ်ဗင်န်ဟန်ဘလ် သခင်ကြီးက မိန့်ဆိုထားသည်မှာ- လူတစ်ဦးတစ်ယောက် အိမ်ထဲဝင်သည့်အခါ ကောင်းမြတ်သောလုပ်ရပ်တို့သည် ချောင်းဟန့်ချင်းနှင့် ဖိနပ်နှစ်ဖက် လှုပ်ခါ၍ အသံပေးခြင်းတို့ဖြစ်သည်။ အဗ်ဒွလ္လာဟ်ဗင်န်အဟ်မဒ် သခင်က မိန့်ဆိုသည်မှာ “ကျွန်တော့်၏ ဖခင်ကြီး အေမာမ်အဟ်မဒ်သည် ဗလီ မှ အိမ်သို့ ပြန်လာသည့်အခါ အိမ်ထဲ မဝင်မည်အလျှင် အိမ်သူ အိမ်သားများ ကြားသည့်တိုင်အောင် မိမိ၏ ဖိနပ်နှစ်ဖက်ကို လှုပ်ခါ၍ အသံပေးလေ့ရှိသည်။ တစ်ခါတစ်ရံ ချောင်းဟန့်၍ ဝင်လေ့ရှိသည်။

ဤအတွက်ကြောင့် ဘိုခါရီနှင့် မွတ်စလင်မ်ကျမ်း၌ ဟဇရသ် ဂျာဗိရ်သခင်၏ ဆင့်ပြန်ချက် တစ်ရပ် လာရှိထားသည်မှာ ကိုယ်တော်မြတ် ﷺ သည် အိမ်သူ အိမ်သားများအား အသိမပေးဘဲ ညအခါ၌ ဝင်ရောက်လာခြင်းကို တားမြစ်ထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ထိုသို့ ပြုမူဆောင်ရွက်ခြင်းသည် အိမ်သူအိမ်သားများအား စုံစမ်းထောက်လှမ်းခြင်း၊ ၎င်းတို့၏ အပြစ်အနာအဆာများကို ရှာဖွေခြင်း စသည့်ထင်မြင်ချက်များ ဖြစ်ပေါ်စေသည့် အတွက်ကြောင့်ပင်။

# ခွင့်တောင်း၍ဝင်ခြင်း

အိမ်သူ အိမ်သားများ အိမ်အခန်းထဲတွင် ရှိပါက ၎င်းတို့ထံသို့ ဝင်ရောက်လိုလျှင် ခွင့်တောင်း၍ ဝင်ရောက်ရပေမည်။ အကြောင်းမူ နှစ်ဖက်လုံးသည် မိမိတို့မနှစ်မြို့သော အခြေအနေမျိုးတွင် မမြင်လိုခြင်းကြောင့် ဖြစ်သည်။ (ဤသို့ ခွင့်တောင်း၍ ဝင်ရောက်ခြင်းသည်) မိဘနှစ်ပါး၊ သားသမီးများ၊ စသော မိမိနှင့် နေကာဟ် ဟရာမ်ဖြစ်သည့် သူများနှင့်သက်ဆိုင်သလို မိမိနှင့်နေကာဟ်ပြုပိုင်သော သူများနှင့်လည်း သက်ဆိုင်ပေသည်။

အေမာမ်မာလစ်က် သခင်ကြီးသည် (မိုဝသွားအ်) ကျမ်း၌ ဟာဇရသ် အသွားအ်ဗန်ယစား၏ ထံမှ ဤသို့ ဆင့်ပြန်ထားပေသည်။” လူတစ်ဦးသည် ကိုယ်တော်မြတ် ﷺ အားလျှောက်တင်တော် မူသည်မှာ- အိုး ကိုယ်တော်---ကျွန်တော့်မိခင်ထံမှ ခွင့်တောင်းရန်လိုအပ်ပါသလား? ထိုအခါ ကိုယ်တော်မြတ် ﷺ က ခွင့်တောင်းရန် လိုအပ်ပေသည်ဟု ဖြေကြားတော်မူခဲ့သည်။ ထိုသူသည် ကိုယ်တော်မြတ် ﷺ အားထပ်မံ၍ လျှောက်ထားသည်မှာ-ကျွန်တော်သည် မိခင်ကြီးနှင့်အတူ နေထိုင်ပြီး ၎င်းအား ပြုစုနေရသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺကမိန့်ကြားတော်မူသည်မှာ---အသင်၏မိခင်ကြီးကို အဝတ်အထည်မပါသော အခြေအနေမျိုးနှင့် မမြင်စေလိုလျှင် ၎င်းထံမှ ခွင့်တောင်းခံပါ။

ထို့အတူ လူတစ်ဦးသည် ဟဇရသ် အဗ်ဒလ္လာဟ်ဗင်မစ်အူးဒ် ထံ လာရောက်၍ မေးမြန်းသည်မှာ-ကျွန်တော့်မိခင်ထံမှ ခွင့်တောင်းရန် လိုအပ်ပါသလား? ထိုအခါ ဟဇရသ် အဗ်ဒွလ္လာဟ်ဗင်န်မတ်စ်အူးဒ် က အသင်သည် မိမိမိခင်၏ အခြေအနေအရပ်ရပ်တို့ကို မြင်တွေ့ချင်မည် မဟုတ်ပါဟုဖြေကြားတော်မူခဲ့သည်။ ဟဇရသ်အဗ်ဒွလ္လာဟ်မတ်စ်အူးဒ် ၏ဇနီး ဟဇရသ် ဇိုင်နဗ်သခင်မကြီးကမိန့်ဆိုတော်မူသည်မှာ သခင်သည် အပြင်မှ မိမိ၏လိုအပ်ချက် တစ်ခုခုဆောင်ရွက်ပြီး အိမ်သို့ ဝင်ရောက်သောအခါ ကျွန်မတို့ထံ၌ မိမိမနှစ်မြို့စရာ တစ်ခုခု မမြင်တွေ့လိုခြင်းကြောင့် အိမ်တံခါးဝတွင်ရပ်၍ ချောင်းဟန့်ပြီး အသိပေးလေ့ ရှိသည်။

အိဗ်နို့မာဂျာကျမ်းဆေးကုသခြင်းအခန်းကဏ္ဍ၏အဆုံးတွင်ဆင့်ပြန်ချက်တစ်ရပ်လာရှိသည်မှာဟဇရသ်အဗ်ဗ်ဒွလ္လဟ်ဗင်န်တ်စ်အူးဒ်သည်အိမ်သို့ဝင်သည့်အခါတိုင်ချောင်းဟန့်အသံပေးလေ့ ရှိသည်။

ဟဇရသ်ဟိုဇိုင်ဖွာဟ်ဗင်န်ယမားန်သခင်အား မေးမြန်းလျှောက်ထားသည်မှာ- ကျွန်ုပ်၏ မိခင်ထံမှ ခွင့်တောင်းရန် လိုအပ်ပါသလား? ထိုအခါ ဟဇရသ် ဟိုဇိုင်ဖွာဗင်န်ယမားန်က အကယ်၍ အသင်သည် ခွင့်မတောင်းပါက အသင်မနှစ်မြို့ဖွယ်ရာတစ်ခုခု မြင်တွေ့နိုင်သည့်အတွက် ကြောင့် ခွင့်တောင်းရပေမည်ဟု ဖြေကြားတော်မူခဲ့သည်။

သာဗေအီကြီး တစ်ပါးဖြစ်သည့် ဟဇရသ် မူစာဗင်န်သွလ်ဟား ၏ သားက မိန့်ဆိုတော်မူသည်မှာ--- ကျွန်တော်သည် မိမိ၏ဖခင်ကြီး

ဟာဇရည်မှုစာနှင့်အတူ ကျွန်တော်၏မိခင်ထံသို့ သွားရောက်ခဲ့သည်။ ဖခင်ကြီးသည် အိမ်ထဲသို့ဝင်ခဲ့သည်။ ကျွန်တော်သည်လည်း ဖခင်ကြီး နောက်မှဝင်ခဲ့ လေသည်။ ထိုအခါ ဖခင်ကြီးသည် နောက်ကို လှည့်ကြည့်၍ ကျွန်တော်၏ ရင်ဘက်ကို ဆောင့်တွန်းလိုက်လေရာ ကျွန်တော်သည် မြေကြီးပေါ်သို့ ဖင်ထိုင်လျှက် လဲကျသွားသည်။ ထို့နောက် ဖခင်ကြီးက "အသင်ခွင့်မတောင်းဘဲ အိမ်ထဲဝင်ဖို့လား'' ဟူ၍ မိန့်ခဲ့ပေသည်။

ဟာဇရည် အဗ်ဒွလ္လာဟ်ဗင်န်အိုမရ်၏ကျွန် ဟာဇရည်နာဖိအ် သခင်က မိန့်ဆိုသည်မှာ-ဟာဇရည် အိဗ်နို့အိုမရ် သခင်သည် အရွယ်ရောက်လာသောမိမိ၏ သားသမီးများကို သီးသန့်အခန်း တစ်ခုခွဲ၍ ထားတော်မူသည်။ မိမိ၏ ခွင့်ပြုချက်မပါဘဲ မိမိထံ လာရောက်တွေ့ဆုံခွင့်မပြုတော့ပေ။

အဗ်နို့ဂျုရိုင်းဂျ်သခင်သည် ဟာဇရည်အသွားအ်ဗင်န်အဗီရဘားဟ် သခင် ထံမှအကြောင်းအရာတစ်ခုကို ဆင့်ပြန်သည်မှာ-ကျွန်တော်သည် ဟာဇရည်အိဗ်နို့အဗ္ဗားစ်သခင်အား ဤသို့ မေးမြန်းလျှောက်တင်ခဲ့သည်။ "ကျွန်တော်၏ ထိန်းသိမ်းကွပ်ကဲမှုအောက်တွင်ရှိသော ညီမ(၂)ယောက်ထံမှ ခွင့်တောင်းရန် လိုအပ်ပါသလား"? ထိုအခါ ဟာဇရည်အိဗ်နို့အဗ္ဗာစ်သခင်က အသင်သည် သူတို့နှစ်ဦးအား အဝတ်အထည်မပါသော အခြအနေမျိုးတွင် တွေ့မြင် ချင်ပါသလား? ဟူ၍ မိန့်ဆိုခဲ့ပေသည်။

ထို့နောက်သခင်ကြီးသည် ဤအာယသ်တော်အား ဖတ်ရွတ်ပြတော်မူခဲ့သည်။ (“အာယသ်တော်၏အဓိပ္ပါယ်မှာ)”

“သို့ရာတွင် အသင်တို့အနက်မှ ယောကျ်ားကလေးများသည် အရွယ်ရောက်လာခဲ့ကြသော်၊ ၎င်းတို့သည် မိမိတို့အလျှင်ခွင့်တောင်းခဲ့ကြသောသူများနည်းတူ ခွင့်တောင်းကြရပေမည်။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းနှင်နှင် မိမိ အမိန့်ပညတ်တော်များကို အသင်တို့အကျိုးငှာ ထုတ်ဖော်မိန့်ကြားတော်မူလေသည်။စင်စစ်မူကားအလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော၊ အကျိုးကြောင်းဆင်ခြင်တုံတရားနှင့်ပြည့်စုံတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။” ▶ **နူရာဟ်နူးရ် အာယသ်တော် -၅၉**

ဟာဇရသ်အိဗ်နို့အဗ္ဗားစ်သခင် မိန့်ဆိုသည်မှာ ခွင့်တောင်းခံခြင်းသည် လူတိုင်းအပေါ်၌ အရေးကြီး တာဝန် ဖြစ်သည်။

ဟာဇရသ် အိဗ်နို့မတ်စ်အူးဒ်သခင်က မိန့်ဆိုသည်မှာ-လူတစ်ဦးတိုင်းသည် မိမိ၏မိဘနှစ်ပါးနှင့် ညီအကိုမောင်နှမများထံမှ ခွင့်တောင်းခံရန်အရေးကြီးပေသည်။ ထို့အတူ ဟာဇရသ်ဂျာဗိရ်ကမိန့်သည်မှာ-လူတစ်ဦးတိုင်းသည် မိမိ၏သားသမီး၊ အသက်အရွယ်ကြီးရင့်သော မိဘနှင့် ညီအကိုမောင်နှမများထံမှ ခွင့်တောင်းခံရန် အရေးကြီးပေသည်။

အေမာမ်ဘိုခါရီ သခင်ကြီးသည် ဤအကြောင်းအရာနှင့် ပတ်သတ်သည့် ဟဒီးဆ်တော် အများစုကို (အလ်အဒဗ္ဗလ်မိဖ်ရဒ်) ဟူသော မိမိ၏

ကျမ်း၌ ဆင့်ပြန်ထားပေသည်။ အလ္လာမာဟ် အိဗ်နို့ကစီးရ်သည်လည်း ဤအကြောင်းအရာနှင့် ပတ်သက်ပြီး လာရှိထားသော ဟဒီးဆ်တော် တချို့အား မိမိ၏သဖ်စီရ်ကျမ်း၌ အထက်ဖော်ပြပါ အာယသ်တော်၏ အောက်တွင် ဖော်ပြထားပေသည်။

## ညင်သာစွာတံခါးခေါက်ခြင်း

မိမိ၏မိတ်ဆွေသူငယ်ချင်း၊ နောင်တော်တစ်ဦးဦးနှင့် မိမိတွေ့လို သော် သူတို့ထံ သွားရောက်၍ တံခါးခေါက်မည်ဆိုလျှင် မိမိလာရောက်၍ တံခါးခေါက်နေသည်ဟု အသိပေးရုံမျှ တံခါးကို ငြင်သာစွာ ခေါက်ရမည်။ ရဲ၊ ဓါးပြနှင့်ပုလိပ်တို့ တံခါးခေါက်သကဲ့သို့ ပြင်းထန်စွာ မခေါက်ရပေ။ ဤသို့ လုပ်ဆောင်ခြင်းသည် အိမ်သူအိမ်သားများအား ခြောက်လှန့်စေ ကဲ့သို့ အစ္စလာမ်က ပြဆိုထားသော စည်းမျဉ်းစည်းကမ်းများနှင့်လည်း ဆန့်ကျင်ပေသည်။

အမျိုးသမီးတစ်ဦးသည် သာသနာ့အကြောင်းကိစ္စအရပ်ရပ်တို့အား မေးမြန်းရန် အေမာမ် အဟ်မဒ်ဗင်န်ဟန်ဗလ်ထံ ရောက်လာခဲ့သည်။ သူမသည် တံခါးကို ပြင်းထန်းစွာ ခေါက်လိုက်သည်။ ထိုအခါ အေမာမ် အဟ်မဒ်သခင်ကြီးက ထွက်လာ၍ ဤသို့ မိန့်ဆိုခဲ့ပေသည်။ “ဤကဲ့သို့ တံခါခေါက်ခြင်းသည် ရဲသားတို့၏တံခါးခေါက်ခြင်းမျိုးသာ ဖြစ်သည်။

ဆွာဟာဗာ သဂၤကကြီးများသည် ကိုယ်တော်မြတ်၏ အိမ်တံခါးကို လက်သည်းလေးများဖြင့် ငြင်သာစွာ ခေါက်ကြသည်။ ဤသည် ဆွာဟာဗာကြီးများက ကိုယ်တော်မြတ်အား ရိုသေစွာ ဆက်ဆံသမှုပြုသည့် သဘောပင်ဖြစ်သည်။ အေမာမ်ဘိုခါရီသည် ယင်းဟဒီးဆ်တော်ကို (အလ်အဒဗွလ်မိုဖ်ရဒ်) ၌ ဆင့်ပြန်ထားပေသည်။

ဤသို့ ငြင်သာစွာ ခေါက်ခြင်းမှာ လူများသည် တံခါး၏အနီးတစိုက်တွင်ရှိနေသည့်အခါမျိုးတွင်ဖြစ်သည်။ အကယ်၍ လူများသည် တံခါး၏အဝေးတွင် ရှိနေကြပါလျှင် ၎င်းတို့ကြားနိုင်သည့် အတိုင်းအတာအထိ ငြင်သာစွာ တံခါးကို ခေါက်ရပေမည်။ အထက်တွင်ဖော်ပြခဲ့သည့် ဟဒီးဆ်တော်အတိုင်းပင် "နူးညံ့သိမ်မွေ့ခြင်းသည် အရာတိုင်းအား အလှတရားများဖြင့် ပြိုးပြက်နေစေသည်။ ခက်ထန်ကြမ်းတမ်းခြင်းသည် အရာတိုင်းကို အကျည်းတန်မှုတို့ဖြင့် အုပ်စိုးထားစေသည်။

ထို့အတူ ကိုယ်တော်မြတ်က မိန့်ဆိုသည်မှာ နူးညံ့သိမ်မွေ့မှုအား လက်လွတ်ဆုံးရှုံးသူသည် ကောင်းခြင်းတရားအပေါင်းကို လက်လွတ်ဆုံးရှုံးသူပင် ဖြစ်သည်။ ▶ **မွတ်စလင်မ်ကျမ်း**

တံခါးကို တစ်ချက်ခေါက်ပြီး နောက်တစ်ချက် မခေါက် မည်အလျှင် အချိန်အနည်းငယ် စောင့်ဆိုင်းရပါသည်။ သို့မှသာလျှင် ဝိုဇူလုပ်သူ၊ အစားအသောက်စားနေသူ၊ နမားဇ်ဂုတ်ပြုနေသူ စသဖြင့် လုပ်ငန်းအသီးသီး၌ မွေ့လျော်နေသူတို့သည် မိမိတို့လုပ်ငန်းများအား အေဆေး

တည်ငြိမ်စွာ ဆောင်ရွက်နိုင်မည်သာဖြစ်သည်။ ထို့ကြောင့် တစ်ချို့သော ပညာရှင်များက နမားဇ်(၄)ရကအသ်ဖတ်သည့် အတိုင်း အတာကို ခေတ္တစောင့်ဆိုင်းရမည့် အချိန်အဖြစ် သတ်မှတ်ထားပေ သည်။နမားဇ် လေးရကအသ် အတိုင်းအတာသည် တံခါးကို စတင် ခေါက်သည့်ချိန်မှ စတင် ပေမည်။

ထိုကဲ့သို့သုံးကြိမ်သုံးခါ ခေါက်ပြီးသောအခါ အိမ်ရှင်က အလုပ် တစ်ခုခုထဲတွင် မွေ့လျော်နေသောကြောင့် မိမိထံသို့ လာရောက်မတွေ့ ဆုံနိုင်သည်ဟုမှတ်ယူ၍ လှည့်ပြန်သွားရမည်။ ကိုယ်တော်မြတ်သည် ဤသို့မိန့်ဆိုထားသည်။ “အသင်တို့အနက်မှ မည်သူမဆို သုံးကြိမ်သုံးခါ ခွင့်တောင်း၍ မရလျှင် ပြန်လှည့်သွားလိုက်ပါ။

### ▸ ဗိုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း

ခွင့်တောင်းရာတွင် အိမ်တံခါးဝတည့်တည့်၌ မရပ်ဘဲ တံခါး၏ ညာဘက်တွင်သော်လည်းကောင်း၊ ဘယ်ဘက်တွင်သော်လည်းကောင်း ရပ်ရပေ မည်။ အဘယ်ကြောင့်ဆိုသော် ကိုယ်တော်မြတ်သည် မည်သူ တစ်ဦး တစ်ယောက်ကိုမျှ အိမ်တံခါးဝတည့်တည့်၌ မတွေ့ဆုံခဲ့သည့် အတွက်ကြောင့်ပင်။ သို့သာမက ဘယ်ဘက်သော်လည်းကောင်း၊ ညာဘက်သော်လည်းကောင်း၊ နေရာယူ၍ တွေ့ဆုံတော်မူ၏။

### ▸ အဗူဒါဝူးဒ်ကျမ်း

## တံခါးခေါက်သူ၏နာမည်အားပြောခြင်း

မိမိနေ့ောင်တော်တစ်ဦးဦး၏ အိမ်တံခါးကို ခေါက်ရာတွင် မည်သူပါနည်းဟု မေးမြန်းခဲ့လျှင် မိမိအား လူများသိရှိထားသည့် နာမည်တစ်ခုခုကို ထုတ်ဖော်ပြောဆိုရမည်။ “လူတစ်ဦး၊ ကျွန်တော်” စသဖြင့် တံခါးနောက်ကွယ်မှ မေးမြန်းသူက မိမိကို မသိရှိနိုင်သော စကားလုံးများအား မသုံးစွဲအပ်ပေ။ အိမ်သူအိမ်သားများက မိမိအသံကို ယဉ်ပါးနေပြီဟု မှတ်ယူ၍မရပါ။ အကြောင်းမူ စကားသံတစ်ခုနှင့်တစ်ခု တူဆင်မှုရှိသည့်အတွက်ကြောင့်ပင်။

ထို့အတူအိမ်တွင်း၌ ရှိနေကြသောသူများသည် မိမိ၏အသံကို ခွဲခြားမသိရှိနိုင်ကြပါ။ ကြားရုံသက်သက်ဖြင့် အသံများအား ခွဲခြားရာတွင်မှန်နိုင်သကဲ့သို့ မှားနိုင်သည်လည်းရှိ၏။ ကိုယ်တော်မြတ်က “တံခါးခေါက်သောသူသည် ကျွန်တော်ပါ”ဟု ဖြေကြားခြင်းကို မနှစ်မြို့တော်မူ၏။ ထိုကဲ့သို့ဖြေခြင်းသည် မည့်သည့်တစ်စုံတစ်ရာကိုမျှ မသိစေနိုင်ပါ။

ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်း၌ ဟာဇရသ်ဂျဗိရ်၏ ဆင့်ပြန်ချက်တစ်ရပ်လာရှိထားသည်မှာ- ကျွန်တော်သည် ကိုယ်တော်မြတ်ထံတော်ပါးသို့သွားရောက်၍ တံခါးခေါက်ခဲ့၏။ ကိုယ်တော်မြတ်က မည်သူပါနည်းဟု မေးမြန်းတော်မူခဲ့သည်။ ထိုအခါ ကျွန်တော်ပါဟု ဖြေကြား

ခဲ့သည်။ ကိုယ်တော်မြတ်သည် မနှစ်မြို့သည့် အနေထားနှင့် “ကျွန်တော်ဆိုတာ ဘယ်သူလဲဟု” မေးမြန်းတော်မူခဲ့သည်။

▶ သဟ်ဟီဘွလ်ကမားလ်ကျမ်း

ဤအတွက်ကြောင့် ဆွဟာဗာသာဝကကြီးများသည် ထိုသို့မေးမြန်းခြင်းခံရလျှင် မိမိတို့၏နာမည်ကို ထုတ်ဖော်ပြောဆိုခဲ့ကြသည်။ ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်းတွင် ဟဇရတ်အဗူဇရ်သခင်၏ မိန့်ဆိုချက်တစ်ရပ်လာရှိသည်မှာ- တစ်ညသောအခါ၌ ကျွန်တော်သည်အပြင်သို့ထွက်လာခဲ့သည်။ ထိုအခိုက် ကိုယ်တော်မြတ် ﷺ သည် တစ်ဦးတည်းလမ်းလျှောက်နေတော်မူသည်။ ကျွန်တော်သည်လည်း လရိပ်ရောင်အောက်၌ လမ်းလျှောက်နေသည်။ ကိုယ်တော်မြတ်သည် နောက်သို့လှည့်ကြည့်တော်မူ၍ မည်သူနည်းဟု မေးမြန်းတော်မူခဲ့သည်။ “အဗူဇရ်ဖြစ်ပါသည်”ဟု ကျွန်တော်ကဖြေကြားခဲ့သည်။

ထို့အတူ ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်း၌ ဟဇရတ်အွမ်မို့ဟာနီသခင်မကြီး၏ မိန့်ဆိုချက်တစ်ရပ်လာရှိထားသည်။ “ကိုယ်တော်မြတ် ﷺ ရေချိုးနေတော်မူစဉ် ဖွာသွေမာသခင်မသည် ကိုယ်တော်မြတ် ﷺ အား (အဝတ်ထည်တစ်ခုဖြင့်) ကာရန်ပေးနေသည်။ ကိုယ်တော်မြတ် ﷺ ကမည်သူပါနည်း?ဟု မေးမြန်းတော်မူခဲ့သည်။ “အွမ်မို့ဟာနီ ဖြစ်ပါသည်”ဟု ကျွန်မက ဖြေကြားခဲ့လေသည် ။

# တွေ့ဆုံဖို့ချိန်းဆိုခြင်း

အသင်သည် ချိန်းဆိုထားခြင်းမရှိဘဲ မိတ်ဆွေတစ်ဦးထံသို့ သွားရောက်ခဲ့လျှင်သော်လည်းကောင်း၊ ချိန်းဆိုထားသောကာလ ကျော်လွန်ပြီးသွားရောက်ခဲ့လျှင် သော်လည်းကောင်း၊ ထိုမိတ်ဆွေက တွေ့ဆုံဖို့ (အခက်အခဲရှိကြောင်း) တင်ပြပါက အသင်သည် ၎င်း၏အခက်အခဲကို နားလည်ပေးရမည်။ အကြောင်းမူ အိမ်ရှင်သည် အိမ်တွင်းအခြေအနေ အရပ်ရပ်အား အသိဆုံးသောသူ ဖြစ်သည့်အလျောက် မိမိနှင့် တွေ့ဆုံဖို့ အဟန့်အတား အခက်အခဲ တစ်ခုခုနှင့် ကြုံဆုံနေရသည့် အတွက်ကြောင့်ဖြစ်နိုင်သည်။ ထို့ကြောင့် ၎င်းအနေဖြင့် မိမိ၏ အခက်အခဲကိုတင်ပြခွင့်ရှိပေသည်။ သာဗီအီသခင်ကြီး ကသာသာဗင်နိဒေအားမား (စဒူစီ) က မိန့်ဆိုသည်မှာ- အသင်သည် မိမိအား မတွေ့လိုသောသူများ၏တံခါးပေါက်တွင် မရပ်လေနှင့်။ အသင့်ထံ၌ လိုအပ်ချက်များရှိသကဲ့သို့ ၎င်းတို့ထံ၌လည်း ဆောင်ရွက်စရာကိစ္စများ ရှိနေပေသည်။ ထို့ကြောင့် ၎င်းတို့၏ (ခိုင်လုံသော) အကြောင်းပြချက်သည် သာပို၍ (လက်ခံ) ထိုက်ပေသည်။

အေမာမ်မာလစ်က် သခင်ကြီးသည် ဤသို့မိန့်ဆိုလေ့ရှိသည်။ “လူတိုင်းသည် မိမိတို့၏ အခက်အခဲကို တင်ပြနိုင်စွမ်း မရှိကြပါ။ ထို့ကြောင့် သူတော်စင်ကြီးများသည် အခက်အခဲ တစ်စုံတစ်ရာကြောင့် မတွေ့ဆုံနိုင်ခြင်းဖြစ်သည်” ဟုမှတ်ယူလေ့ရှိကြသည်။ ထိုကဲ့သို့ ပြောဆို

ရခြင်းသည် အိမ်ရှင်က တင်ပြလာမည့် အခက်အခဲကို အစချီပေးလိုက်ခြင်းပင်ဖြစ်သည်။

ဤစည်းမျဉ်းစည်းကမ်း၏အရေးကြီးပုံ (အိမ်ရှင်ကတင်ပြလာမည့်) အခက်အခဲကြောင့် လူတစ်ချို့၏စိတ်တွင်းဝယ် တွဲညှိနေသည့် (မကောင်းသောထင်မြင်ချက်များ) ကို ချေဖျက်ထားပုံတို့နှင့် ပတ်သတ် ပြီး အလ္လာဟ်အရှင်မြတ်က ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ဆိုထားပေသည်။ "အကယ်၍ (အိမ်ရှင်က) အသင်တို့အား ပြန်ကြကုန်ဟု ပြောဆိုခဲ့လျှင် အသင် တို့သည် ပြန်လာခဲ့လေကုန်။ ထိုသို့ ပြန်လာခြင်းသည် အသင်တို့ အဖို့အစင်ကြယ်အမွန်မြတ်ဆုံးပင်ဖြစ်သည်။

**▶ စူရာဟ်နူးရ်-အာယသ် ၂၈**

ဤအာယသ်တော်သည် အိမ်ဝင်အိမ်ထွက်ခြင်း၊ ခွင့်တောင်းခြင်း ဆိုင်ရာနှင့် ပတ်သက်ပြီး လာရှိထားပေသည်။

ကုရ်အာန်ကျမ်းတော်မြတ်က ပြဆိုထားသော ဤစည်းမျဉ်းစည်းကမ်းသည် လူတို့အကြား ဖြစ်ပျက်လေ့ရှိသော (အခက်အခဲ၊ ပြသနာ)တို့အား ဖြေရှင်းပေးထားသည်။ ၎င်းတို့မှာ- မိမိမတွေ့လိုသော သူတစ်ဦးဦး လာရောက်တွေ့ဆုံသောအခါ မိမိသည် အိမ်ထဲ၌ မရှိကြောင်းလိမ်ညာ၍ပြောဆိုခြင်း၊မိမိ၏သားသမီးများကပါ၎င်း (လိမ်ညာသော) မကောင်းသည့် အကျင့်စရိုက်ဆိုးကို သင်ယူလိုက်ခြင်း၊ ထိုကဲ့သို့

မိမိ၏ဆက်ဆံမှုပြုခြင်းကြောင့် စိတ်နှလုံးသားများထဲ၌ အမုန်းတရားများ ပေါက်ဖွားလာခြင်း၊ တို့ဖြစ်ကြသည်။

စစ်စစ် ကုရ်အာန်၏ လမ်းညွှန်မှုသည် အထက်ပါ အခက်အခဲ၊ ပြက်သနာတို့ကိုချေဖျက်ထားသည်။ ထို့ကြောင့် အိမ်ရှင်အနေဖြင့် မိမိ၏ အခက်အခဲအား သိမ်မွေ့စွာ တင်ပြခွင့်ရှိပါသည်။

## မျက်စိအရှုကိုထိန်းသိမ်းခြင်း

သူစိမ်းတစ်ဦး၏ အိမ်ထဲကို ဝင်ခွင့်တောင်းသောအခါ အိမ်တွင်းနှင့်အိမ်တွင်း၌ရှိသော မကြည့်သင့်မကြည့်အပ်သည့်အရာများဆီ မိမိ၏ အရှုမရောက်စေရန် ထိန်းသိမ်းရပေမည်။ ထိုကဲ့သို့ အပြုအမူသည် အပြစ်ထိုက်ပေသည်။

အဗူဒါဝူးဒ်နှင့်သွဗ်ရာနီကျမ်းတွင် ဟဇရသ်စအ်ဒ်ဗိုဗ်နို့အိုဗာဒါး၏ ဆင့်ပြန်ချက်တစ်ရပ် လာရှိထားသည်။ “လူတစ်ဦးသည် ကိုယ်တော်မြတ် ﷺ ၏အိမ်တံခါးဝတည့်တည့်တွင် ရပ်၍ ဝင်ခွင့်တောင်းခဲ့သည်။ ကိုယ်တော်မြတ် ﷺ သည် ၄င်းအား အိမ်တံခါးဝတည့်တည့်တွင် မရပ်ဘဲ ဘေးတစ်ဘက်၌ရပ်ရန် အမိန့်ပေးခဲ့လေသည်။ ကိုယ်တော်မြတ် ﷺ က”စင်စစ် မျက်စိအရှုအတွက်ပဲ ခွင့်တောင်းရခြင်းပင်ဖြစ်သည်။”ဟု ၎င်းအား မိန့်ဆိုခဲ့သည်။

အေမာမ်ဘိုခါရီ သခင္ႀကီးက မိမိ၏က်မ္း အလ်အဗြလ္မွဖ္ရဒ္ ၌ ဟဒီရည္ ေစာင္ဘာဒ္၏ ဆင့္ျပန္ခ်က္ တစ္ရပ္အား တင္ျပထားေပသည္။ ကိုယ္ေတာ္ျမတ္ ﷺ က မိန္႔ေတာ္မူသည္မွာ--- "ခြင့္ျပဳခ်က္ မရဘဲ လူတစ္ဦး၏ အိမ္အတြင္းပိုင္းအား ၾကည့္ခြင့္မရွိပါ။ အကယ္၍ ၾကည့္ခဲ့ပါက ခြင့္ျပဳခ်က္မရဘဲ အိမ္ထဲသို႔ ဝင္ေရာက္သည့္ သေဘာ သက္ေရာက္သြားေပမည္။ ထိုကဲ့သို႔ ျပဳမူျခင္းသည္ ၎င္းအဖို႔ ဟရာမ္ ျဖစ္သည္။"

အေမာမ္ဘိုခါရီ၏ အလ်အဒဗြလ္မွဖ္ရဒ္က်မ္းႏွင့္ အဗူဒါပူးဒ္က်မ္း သိရ္မေဇီက်မ္းတို႔၌ ဟဒီရည္ အဗူဟိုရိုင္ရာဟ္ သခင္၏ ဆင့္ျပန္ခ်က္ တစ္ရပ္လာရွိထားသည္။ ကိုယ္ေတာ္ျမတ္ ﷺ မိန္႔ေတာ္မူသည္မွာ - (လူတစ္ဦး) ၏ အရႈသည္ (ခြင့္ျပဳခ်က္မရဘဲ) အိမ္အတြင္းသို႔ က်ေရာက္သြားပါက ၎င္းသူ (အိမ္) ဝင္ခြင့္မရရွိပါ။ ထို႔အတူ ဘိုခါရီက်မ္း၌ ဟဒီရည္ အမွ္ဘားရ္ဘင္န္စအီးဒ္၏ ဆင့္ျပန္ခ်က္ လာရွိထားသည္။ ဟဒီရည္အိုမရ္ သခင္က မိန္႔ဆိုသည္မွာ (အိမ္ရွင္) ၏ ခြင့္ျပဳခ်က္မရဘဲ လူတစ္ဦး ၏အရႈသည္ အိမ္အတြင္းပိုင္းတစ္ခုလုံးရွိ ေနရာအႏွံ႔ ေရာက္သြားပါမူ ၎င္းသူသည္ စည္းကမ္း ခ်ိဳးေဖာက္သူ ပင္ျဖစ္သည္။ ထို႔အတူ ဗိုခါရီႏွင့္ မွတ္စ္လင္မ္က်မ္း၌ ဟဒီရည္စဟလ္ဗင္န္စအဒ္ သခင္ႀကီး၏ ဆင့္ျပန္ခ်က္လာရွိထားသည္။" လူတစ္ဦးသည္(နံရံ)အေပါက္ေတြမွ ကိုယ္ေတာ္ ျမတ္ ﷺ ၏ အခန္းေတာ္မ်ားအား ၾကည့္ခဲ့ေလသည္။ ထိုအခိုက္ ကိုယ္ေတာ္ျမတ္ ﷺ ထံေတာ္တြင္ တုတ္(အခြၽန္) တစ္ေခ်ာင္း

ရှိနေခဲ့သည်။ ကိုယ်တော်မြတ် ﷺ ကငင်းကိုမြင်သောအခါ ဤသို့ မိန့်ဆိုတော်မူသည်။ "အကယ်၍ ငါကိုယ်တော်သည် အသင်အခန်းထဲသို့ ကြည့်သည်ကို သိခဲ့ပါက ဤတုတ်ချွန်ဖြင့် အသင့်မျက်လုံးနှစ်ဖက်အား ထိုးဖောက်တော်မူမည်။ စင်စစ် မျက်စိအရှုအတွက်ပဲ ခွင့်တောင်းခံခြင်း အား သတ်မှတ်ထားတော်မူသည်။"

## သေသပ်စွာဖိနပ်ချွတ်ခြင်း

လူတစ်ဦး အိမ်သို့ အဝင်၊အထွက်ပြုသည့်အခါ သိမ်မွေ့စွာဖြင့် အဝင်၊ အထွက်ပြုရမည်။ ထို့အတူ မိမိ၏အရှုအား ထိန်းသိမ်းပြီး တိုးတိုးစွာ အသံပေးရမည်။ ဖိနပ်စီးသည့်အခါ ၎င်း၏ စည်းကမ်းများ နှင့်အညီ စနစ်တကျစီးရမည်ဖြစ်သကဲ့သို့ ဖိနပ်ချွတ်သည့်အခါ၌လည်း စီစီညီညီ ချွတ်ရမည်။ ဖိနပ်စီးသည့်အခါ လိုက်နာရမည့် စည်းကမ်း တစ်ခုမှာ--- ညာခြေဖြင့်စီး၍ ဘယ်ခြေဖြင့် ချွတ်ခြင်းပင်ဖြစ်သည်။

(ဤသည်နှင့်စပ်လျဉ်း၍) ကိုယ်တော်မြတ် ﷺ က မိန့်ဆိုထား သည်မှာ-- အသင်တို့ ဖိနပ်စီးသောအခါ ညာခြေဖြင့် အစပြု၍ ဖိနပ် ချွတ်သောအခါ ဘယ်ခြေဖြင့် အစပြုရမည်။ ဖိနပ်စတင် စီးသောအခါ ညာခြေဖြင့် အစပြု၍ ဖိနပ်ချွတ်သောအခါ ညာခြေဖြင့် အဆုံးသတ်ရမည်။

▶ မွတ်စလင်မ်ကျမ်း

အစ္စလာမ် သာသနာသည် နူးညံ့သိမ်မွေ့မှုနှင့် သန့်ရှင်းမှုအား (ဖော်ဆောင်သော) သာသနာဖြစ်သည့်အလျောက် အိမ်သို့ဝင်သောအခါ မိမိ၏ဖိနပ်နှစ်ဖက်တွင် လူးပေနေသည့် အညစ်အကြေးများကို ဖယ်ရှား သုတ်သင်ပစ်ရမည်။

## အိမ်ရှင်သတ်မှတ်ပေးသောနေရာတွင်ထိုင်ခြင်း

အိမ်တစ်အိမ်သို့ ဧည့်သည်အဖြစ် သွားသောအခါ မိမိ ကြိုက်နှစ်သက်သည့်နေရာတွင် မထိုင်ဘဲ အိမ်ရှင်ထိုင်ခိုင်းသောနေရာ၌သာ ထိုင်ရပေမည်။ အကြောင်းမှာမူ မိမိကြိုက်နှစ်သက်သော နေရာ၌ ထိုင်ခြင်းသည် အိမ်အတွင်း မကြည့်သင့်မကြည့်အပ်သော အရာများဆီသို့ အရှုရောက်သွားနိုင်သလို အိမ်သူအိမ်သားများအားလည်း အခက်အခဲအကြပ်အတည်း ဖြစ်စေသောကြောင့်ပင်။ ထို့ကြောင့် မိမိသည် အိမ်ရှင်ပေးကမ်းချီးမြင့်သောအရာကို လက်ခံပြီး ၎င်းအမိန့်ပေးသည့်အတိုင်း ကျင့်ကြံ ဆောင်ရွက်ရမည်သာ ဖြစ်သည်။ ဆွဟာဗာကြီး အဒီယိဗ်နို့ဟာသင်မ် အစ္စလာမ် လက်ခံခြင်းနှင့် ပတ်သက်သည့် အကြောင်းအရာလေး တစ်ခုလာရှိထားသည်မှာ---“၎င်းသည် ကိုယ်တော်မြတ် ﷺ ထံတော်ပါးသို့ အခစားဝင်ခဲ့သည်။ ကိုယ်တော်မြတ်သည်

၎င်းအား မှီအုံးပေါ်တွင် ထိုင်စေပြီး ဂုဏ်ပြုခဲ့သည်။ မိမိသည် မြေကြီး ပေါ်၌သာ ထိုင်ခဲ့သည်။

ဟဇရသ်အဒီ ﷺ က (ဆက်လက်၍) မိန့်ဆိုထားသည်မှာ--- ထို့နောက် ကိုယ်တော်မြတ်ﷺ သည် ကျွန်တော့်အား မိမိအိမ်သို့ ခေါ်ဆောင်လာသည်။ (အိမ်သို့ရောက်သောအခါ) ကိုယ်တော်သည် (အတွင်းပိုင်းအား စွန်ပလွန်လျှော်ဖြင့်ယက်လုပ်ထားပြီး အပြင်ပိုင်းကို သရေဖြင့် ဖုံးအုပ်ထားသော) မှီအုံး တစ်ခုကို ကျွန်တော့်အား လှမ်း၍ ပေးပြီး မိန့်ဆိုသည်မှာ--- အသင်ဒီမှီအုံးပေါ်တွင် ထိုင်ပါ။" ကိုယ်တော်မြတ်ပဲထိုင်ပါ" ဟု ကျွန်တော်က ဖြေလျှောက်ခဲ့သည်။ ကိုယ်တော်မြတ်က "အသင်ထိုင်ပါ" ဟုမိန့်ဆိုသောအခါ ကျွန်တော်သည် ၎င်းမှီအုံးပေါ်တွင်ထိုင်ခဲ့သည်။

▶ **အလ်ဗေဒါယာဝန်နေဟာယာကျမ်း ၅း၆၄**

ဟဇရသ် ခါရေဂျာဗင်ဇိုက်ဒ်က အေမာမ်အိဗ်နို့စီရီးန် သခင်ကြီး ထံတော်ပါးသို့ သွားရောက်တွေ့ဆုံသောအခါ ၎င်းအား မှီအုံးဘေးတွင် ရှိသောမြေကြီးပေါ်၌ ထိုင်နေသည်ကို တွေ့ခဲ့ရလေသည်။ မိမိသည် သခင်ကြီး နှင့်အတူ (မြေကြီးပေါ်၌) ထိုင်ရန် ရည်ရွယ်ပြီး သခင်ကြီးကို ဤသို့ လျှောက်တင်သည်မှာ---- သခင်ကြီးနှစ်သက်သော အရာကို ကျွန်ုပ် နှစ်သက်ပါသည်။ ထိုအခါ အေမာမ် အိဗ်နို့စီရီးန်က မိန့်ဆိုသည်မှာ---"ငါ့အိမ်၌ ငါနှစ်သက်သောအရာကို အသင့်အား မနှစ်သက်စေလိုပါ။ ထို့ကြောင့် အသင်သည်ထိုင်ခိုင်းသည့် နေရာ၌သာ ထိုင်ပါ။"

ဤနည်းအတူ အိမ်ရှင်က မိမိနှင့်အတူ ထိုင်စေလိုမှသာလျှင် ၎င်းနှင့်အတူထိုင်ရပေမည်။ ကိုယ်တော်မြတ်ﷺ က မိန့်တော်မူသည်မှာ-- လူတစ်ဦးသည် အိမ်ရှင်က မိမိအတွက် သီးသန့် စီမံထားသော နေရာတွင် ထိုအိမ်ရှင်၏ခွင့်ပြုချက်မပါ ဘဲမထိုင်လေနှင့်။

▶ **မှတ်စ်လင်မ်ကျမ်း**

## မစူးစမ်းရ

မိမိမိတ်ဆွေ တစ်ဦးဦး၏ အိမ်တွင် ထိုင်သည်ဖြစ်စေ၊ အိပ်သည် ဖြစ်စေ၊ မိမိအရှုကို မလိုအပ်ဘဲ အိမ်အတွင်းရှိအခြားသော အရာဝတ္ထု ဆီသို့ မပို့ဆောင်ရပါ။ ၎င်းအရာများကို ထောက်လှမ်း စုံစမ်းသည့် သဘောဖြင့်လည်း မကြည့်ဘဲ မိမိအရှု့အား ထိန်းသိမ်းထားရမည်။ ထို့အတူ သိုမှီသိမ်းဆည်းထားသော တန်ဖိုးကြီး ပစ္စည်းများကို ဖွင့်မ ကြည့်ရပါ။ အကြောင်းမှာ ထိုကဲ့သို့ ပြုမူခြင်းသည် အစ္စလာမ့် စည်းကမ်း များနှင့် ဆန့်ကျင်သလို မိမိမိတ်ဆွေက မိမိအပေါ်ထားရှိသည့် ယုံကြည် ချက်အား (ပျက်ပြားစေသည်။) ၎င်းသည် အသင့်အားယုံကြည် စိတ်ချမှု အပြည့်ဖြင့် မိမိအိမ်တွင် ဝင်ထွက် သွားလာခွင့်ပြုပြီး နေထိုင်ခွင့်ပြု ခဲ့သည်။

ထို့ကြောင့် အသင်သည် (လူတစ်ဦး၏အိမ်သို့) သွားရောက် လည်ပတ်သောအခါ ထားရှိရမည့် စည်းကမ်းများအား အထူးဂရုပြုပြီး

အိမ်ရှင်ကို ကောင်းမွန်စွာ ဆက်ဆံမှုပြုပါ။ သို့မှသာလျှင် အသင်သည် အိမ်ရှင်၏အချစ်၊ ရှိသေသမှုနှင့် အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းစောင့်ရှောက်မှုတို့အား (ဆွတ်ခူးနိုင်ပေမည်။)

## သင့်တော်သောအချိန်ရွေးချယ်ခြင်း

လူတစ်ဦးတစ်ယောက်နှင့် တွေ့ဆုံလိုပါက သင့်တော်သောအချိန် တစ်ခုအား ရွေးချယ်ပြီး (၎င်းသူနှင့် တွေ့ဆုံရပေမည်။) မိမိတွေ့ဆုံမည့် သူအား အခက်အခဲမဖြစ်စေဘဲ ၎င်းသူ၏ အခြေအနေအရပ်ရပ်ကို ထောက်ရှုပြီး သတ်မှတ်ထားသော အချိန်အတွင်း၌သာ တွေ့ဆုံပါလေ။ အချိန်မဆွဲပါလေနှင့်။ ထို့အတူ အိပ်ချိန်၊ အနားယူချိန်၊ စားသောက်ချိန် စသဖြင့် မသင့်လျော်သော အချိန်များတွင် သွားရောက်မတွေ့ ဆုံအပ်ပေ။

အေမာမ်နဝဝီသခင်ကြီးက မိမိ၏ (အဇ်ကာရ်) ဟူ သောကျမ်း၌” စလာမ်နှင့်သက်ဆိုင်သော မတ်စ်အလဟ်များ အခန်းကဏ္ဍအဆုံးပိုင်း” တွင်မိန့်ဆိုထားသည်မှာ---သူမွန်သူမြတ်များ၊ ညီအစ်ကိုများ၊ အိမ်နီးနားချင်းများ၊ မိတ်ဆွေသင်္ဂဟများ၊ ဆွေမျိုးသားချင်းများထံသို့ သွားရောက်တွေ့ဆုံခြင်းနှင့် ၎င်းတို့အား ဂုဏ်ပေးခြင်း၊ ကောင်းမွန်စွာဆက်ဆံခြင်း၊ အဆက်အသွယ်ပြုလုပ်ခြင်းတို့သည် မွတ်စ်လင်မ်တစ်ဦးအဖို့ အလွန်ကောင်းမြတ်သော လုပ်ရပ်ပင်ဖြစ်သည်။ သို့တစေလည်း

ထို(ကောင်းမြတ်သော လုပ်ရပ်များ လုပ်ဆောင်ရာတွင်)၎င်းတို့၏ အခြေနေအရပ်ရပ်၊ အဆင်အတန်းများ၊ အားလပ်ချိန်များကို (ထောက်ထားသင့်ပေသည်။) ထို့အတူ ၎င်းတို့နှစ်သက်သောပုံစံနှင့် အချိန်များတွင်တွေ့ဆုံမှု ပြုလုပ်ရမည်။ ဤသည်နှင့်စပ်လျဉ်း၍ ကျော်ကြားသော ဟဒီးဆ်တော်များလည်း လာရှိပေသည်။

## ရှိသေစွာစကားပြောဆိုခြင်း

လူတစ်ဦးထံသို့ သွားရောက်တွေ့ဆုံ၍ စကားစမြည် ပြောဆိုသော အခါ ရှည်လျားမှုမရှိဘဲ အချိန်နေရာနှင့် လျော်ကန် သင့်မြတ်သည့် စကားကို ပြောဆိုရပေမည်။ မိမိသည် ထိုင်ဝိုင်းတစ်ခုတွင် အသက်အရွယ် အငယ်ဆုံးသူဖြစ်ပါက ၎င်းထိုင်ဝိုင်း၌ ရှိကြသော သူများအနက် တစ်ဦးဦးက မေးလိုက်သည့် မေးခွန်းကိုသာဖြေပါ။ သို့သော် မိမိစကားသည် ကျေနပ်နှစ်သက်မှု၊ နှစ်ထောင်းအားရမှုနှင့် အကျိုးဖြစ်ထွန်းမှု များ ၎င်းတို့အား ပေးစွမ်းနိုင်မည်ဟု ယူဆမိပါက ထိထိမိမိ အတိုချုံးစွာ ပြောဆိုပါ။ ထို့အတူ မိမိသည် စနစ်တကျထိုင်ခြင်း၊ ကောင်းမွန်စွာ စကားပြောဆိုခြင်းတို့ဖြင့် ထိုင်ဝိုင်း တွင်ကျင့်ဆောင်အပ်သော စည်းစနစ်များအား ဂရုပြုအပ်ပေသည်။

# ထိုင်ဝိုင်း၌ရှိသူတို့ကိုစလာမ်ပေးခြင်း

ထိုင်ဝိုင်းတစ်ခုသို့ သွားရောက်လျှင် ၎င်းထိုင်ဝိုင်းတွင်ရှိကြသော သူများအား စလာမ်ပေးရမည်။ ထို့အတူ ထိုင်ဝိုင်း၌ တွေ့သမျှသူတိုင်းကို လက်ဆွဲနှုတ်ဆက်ခြင်းမပြုဘဲ ၎င်းထိုင်ဝိုင်းအတွင်းရှိ ထိုင်နေသူများ အနက် အသက်အရွယ်အရသော်လည်းကောင်း၊ အသိပညာအရသော် လည်းကောင်း၊ သက္ကဝါအရသော်လည်းကောင်း၊ ကြီးမြတ်သူတို့အား ဦးစားပေး လက်ဆွဲနှုတ်ဆက်ရမည်။ အကယ်၍ထိုင်ဝိုင်း၌ ရှိကြသူများ က ထွတ်မြတ်မှုခြင်း တူညီနေပါက ၎င်းတို့အနက် အသက်အရွယ် ကြီးဆုံးသောသူကို လက်ဆွဲနှုတ်ဆက်ရပေမည်။ ကိုယ်တော်မြတ် ﷺ သည် ဤသို့ မိန့်ဆိုထားသည်မှာ---"ကြီးသူကိုဦးစားပေးပါ။" နောက် ဆင့်ပြန်ချက်တစ်ခုတွင် "အသက်အရွယ်ကြီးရင့်သူကို ဦးစား ပေးပါ။" ဟူ၍လာရှိ ထားသည်။ ▸ **ဗိုခါရီကျမ်း၊မွတ်စ်လင်မ်ကျမ်း**

# လူနှစ်ဦးကြားဝင်ရောက်မထိုင်ရ

ထိုင်ဝိုင်းတခု၌ ထိုင်နေသော သူနှစ်ဦးကြားတွင် ဝင်ရောက်မထိုင်လေနှင့်။ သို့သာမက ၎င်းတို့၏ ဘေးနှစ်ဘက်၌သာ ထိုင်ရပေမည်။ ကိုယ်တော်မြတ် ﷺ က မိန့်ဆိုထားသည်မှာ --- "ခွင့်ပြုချက်မရဘဲ လူ နှစ်ဦးကြားတွင် ထိုင်ခွင့်မရှိပေ။

▸ **အဗူဒါဝူးဒ်ကျမ်း**

အကယ်၍ ၎င်းသူနှစ်ဦးသည် မိမိတို့ကြားတွင် ထိုင်ခွင့်ပေးခဲ့ပါက (ထိုင်ခွင့်ရသူ) သည် တင်ပျဉ်ခွေ၍ မထိုင်ဘဲ ကျုံ့၍သာထိုင်ရမည်။ အလ္လာမာအိဗ်နိုလ်အအ်ရာဘီက ဆင့်ပြန်ခဲ့သည်။ ပညာရှင်အချို့က မိန့်ဆိုသည်မှာ---"ဆုံးမသြဝါဒများကို ပြစ်မှုများဟု ခံယူသူနှင့် ကျဉ်းမြောင်းသော ထိုင်ဝိုင်းတွင် တင်ပျဉ်ခွေပြီး ထိုင်သူတို့သည် မတရားလုပ်သူများဖြစ်ကြသည်။

▸ **အဒဗ္ဗလ်အိမ်လာအ်ဝလ်အိစ်သင်မ်လာအ် ၁၃၂**

ထို့အတူ ၎င်းထိုင်နေသူနှစ်ဦးကြား ဝင်ရောက်ထိုင်ပါက ၎င်းတို့ပြောဆိုနေသည့် လျှို့ဝှက်စကားများ၊ တကိုယ်ရည်နှင့် သက်ဆိုင်သော စကားများအား နားမထောင်လေနှင့်။ အကြောင်းမှာ ထိုကဲ့သို့ နား

ထောင်ခြင်းသည်---- စာရိတ္တညှိုးဖျင်းခြင်းနှင့် မကောင်းမှု ကျူးလွန်ခြင်း တို့အတွက် (လုံလောက်စေသောကြောင့်ပင်)။ ကိုယ်တော်မြတ် ﷺ မိန့်ဆိုသည်မှာ---- လူတစ်စု၏ ကျေနပ်နှစ်သက်မှုမရဘဲ ၎င်းတို့ ပြောဆိုသည့် စကားများအား (ခိုးဝှက်) ၍ နားထောင်ခဲ့မှု ကေယာမသ်နေ့၌ (နားထောင်သူ၏) နားနှစ်ဖက်တွင် ခဲရည်ပူလောင်းချခြင်းခံရမည်။

▶ **ဗိုခါရီကျမ်း**

ဤနည်းအတိုင်းပင် ထိုင်ပိုင်းတစ်ခုတွင် လူသုံးဦးထိုင်နေပါမူ လူနှစ်ဦးသည် တိုးတီးစွာ စကားမပြောဆိုအပ်ပေ။ ထိုသို့ပြောဆိုခြင်းသည် တတိယလူ၏စိတ်ထဲတွင် အနိဋ္ဌာရုံအမျိုးမျိုးစွဲကပ်စေပြီး ၎င်းတို့နှင့် ကင်းကွာချင်စိတ်များ ပေါက်ဖွားစေသည်။ ဤသည် မွတ်စ်လင်မ်များ အဖို့ လျော်ကန်သင့်မြတ်မှုမရှိပေ။

သို့ပါ၍ ကိုယ်တော်မြတ် ﷺ က ထိုမကောင်းသောစာရိတ္တများ မွတ်စ်လင်မ်တို့အတွင်း (မဖြစ်ပေါ်လာစေရန်) ဤကဲ့သို့ ပိတ်ပင်တားစီး ထားပေသည်။" လူသုံးဦးထိုင်နေပါလျှင် လူနှစ်ဦးသည် တီးတိုးစွာ စကား မပြောဆိုအပ်ပါ။"

▶ **အဗူဒါဝူးဒ်ကျမ်း**

အထက်ပါ ဟဒီးဆ်တွင် ကိုယ်တော်မြတ် ﷺ لايَتَنَاجَ ဟူ၍" တားမြစ်ပိတ်ပင်''သောစကား လုံးမသုံးစွဲထားပေ။ သို့သာမက لايتناجى ဟူ၍"ငြင်းဆန်မှုသတင်းပေးမှု"၏အဓိပ္ပါယ်ဖော်ဆောင်သော စကား

လုံးသုံးထားခြင်းဖြင့် ထိုသို့ ပိတ်ပင်တားစီးထားသော အမှားမျိုးအား မွတ်စ်လင်မ်တစ်ဦး ကျူးလွန်မည် မဟုတ်ကြောင်းကို အသိပေးလိုက်ခြင်းဖြစ်သည်။ အကြောင်းမှာ ထိုသို့သော အမှားမျိုးသည် လူ့ဇီဇသဘာဝအရ သိထားပြီးသော အရာဖြစ်သောကြောင့်ပင်။

ငင်းဟဒီးဆ်တော်အား အေမာမ်မာလစ်က်အေမာမ် အဗူဒါဝူးဒ်တို့က ဟဇရသ်အဗ္ဗဒွလ္လာဟ်ဗင်န်အိုမရ် သခင်ထံမှ ဆင့်ပြန်ခဲ့လေသည်။ လူတစ်ဦးက ဟဇရသ်အိဗ်နို့အိုမရ်သခင်ကို မေးမြန်းသည်မှာ- ထိုင်ဝိုင်း၌ လူလေးဦးရှိပါက မည်သို့နည်း။ ထိုအခါတွင် လူနှစ်ဦးသည် တီးတိုးစွာ စကားပြောဆိုခွင့်ရှိသည်။” ဟု ဖြေကြားတော်မူခဲ့သည်။




ကြီးသူကိုရိုသေပါ။ ၎င်းနှင့်အတူ လမ်းလျှောက်သောအခါ ၎င်း၏ ဘက်ညာနှစ်ဖက်အနက် တစ်ဖက်မှနေ၍ အနည်းငယ် နောက်ဆုတ်ပြီး လမ်းလျှောက်ပါလေ။ အဝင်၊ အထွက်၊ ပြုသည့်အခါ တွင် ၎င်းအား ဦးစားပေး အဝင်၊ အထွက် ပြုစေပါ။ ၎င်းနှင့် တွေ့ဆုံသော အခါ ၎င်းအား စလာမ်မေတ္တာ ပို့သပြီး ဂုဏ်ပေးလေးစားပါ။ ထိုင်ဝိုင်း တစ်ခုတွင် ၎င်း

နှင့်ရှိနေပါက ၎င်းအား မိမိထက်အလျှင် ပြောဆိုစေပြီး ၎င်း၏ပြောဆိုချက်များကို ဂုဏ်ပေးသောအားဖြင့် သေချာစွာ နားထောင်ပါလေ။

အကယ်၍ ၎င်းနှင့်ကိစ္စတစ်စုံတစ်ရာအား ဆွေးနွေးဖို့ လိုအပ်လာလျှင် နူးညံ့သိမ်မွေ့ပြီး ရိုသေစွာဆွေးနွေးပါ။ ထိုသို့ ဆွေးနွေးရာ၌ မိမိ၏အသံအား ကျယ်လောင်မှု မဖြစ်စေရန် နိမ့်ထား ပါလေ။ ၎င်းအား ခေါ်ဝေါ်သောအခါ ဂုဏ်ပေးလေးစားသော အခေါ်အဝေါ်ဖြင့် ခေါ်ဝေါ်ပါလေ။ထိုသို့ရိုသေမှုပြုရန်နှိုးဆော်ထားသောဟဒီးဆ်တော်တစ်ချို့လာရှိထားသည်မှာ----"ညီအစ်ကိုနှစ်ဦးသည် မိမိတို့ ကြုံ ကြိုက် ခဲ့ရသည့် အကြောင်းအရာတစ်ခုအား တင်ပြရန် ကိုယ်တော်မြတ် ﷺ ထံသို့ ရောက်လာခဲ့ကြသည်။ ၎င်းတို့ နှစ်ဦးအနက် ငယ်ရွယ်သူသည် (ဦးစွာ) ပြောဆိုဖို့ ကြံရွယ်သောအခါ ကိုယ်တော်မြတ် ﷺ က ၎င်းအား မိန့်တော်မူသည်မှာ_ "အသင်၏ အစ်ကိုကြီးအား ဦးစွာ ပြောဆို ခွင့်ပြုပါ။"

▶ **ဗိုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း**

ထို့အတူကိုယ်တော်မြတ် ﷺ က မိန့်တော်မူသည်မှာ--- ကြီးသူကို မလေးစားသူ၊ ငယ်သူကိုမသနားသူ၊ သာသနာ့ပညာရှင်ကိုမရိုသေသူ သည်ငါကိုယ်တော်၏ အွမ္မသ်သားများထဲမှ မဟုတ်ပေ။ အေမာမ် သွ်ဗ်ရာနီ၊ အေမာမ်မာလိက်၊ အေမာမ်ဟာကင်မ်တို့က ဤဟဒီးဆ်ကို ဟဇရသ်အိုဗာဒါးဗင်န်ဆွာမိသ်သခင်ကြီးထံမှ ဆင့်ပြန်ခဲ့ကြသည်။

# ကိုယ်တော်မြတ်၏အကြင်နာတရား

အောက်ဖော်ပြပါ ဟဒီးဆ်တော်၌ လူငယ်တွေကို ကိုယ်တော်မြတ် ﷺ ကပို့ချပေးထားသော လူမှုဆက်ဆံရေးဆိုင်ရာ (အမိန့်ပညတ်ချက်) များအား ကောင်းစွာနာယူ လိုက်နာသင့်ပေသည်။ ဆွဟာဗာကြီး ဟဇရသ်မာလိက်ဗင်န်ဟိုဝိုင်ရိဆ်သခင်က မိန့်ဆိုသည်မှာ-ကျွန်တော်တို့ သက်တူရွယ်တူ လူပျိုပေါက်တစ်စုသည် ကိုယ်တော်မြတ်ထံတော်ပါးသို့ အခစားဝင်၍ ရက်ပေါင်း (၂၀) တိတိ နေထိုင်ခဲ့ကြသည်။ ကိုယ်တော်မြတ်သည် အလွန်ပင် ကြင်နာယုယသူတစ်ဦးဖြစ်သည်။ ကျွန်တော်တို့ သည် အိမ်သူအိမ်သားများအား လွမ်းဆွတ်နေကြသည်ကို ရိပ်စားမိသောအခါ ကိုယ်တော်မြတ် ﷺ က အိမ်တွင်ကျန်ရစ်ခဲ့သော မိသားစုများ၏အခြေအနေအား မေးမြန်းတော်မူခဲ့သည်။ ကျွန်တော်တို့သည် ပြန်လည် ဖြေလျှောက်ခဲ့လေသည်။ ထို့နောက် ကိုယ်တော်မြတ် ﷺ က မိန့်တော်မူသည် မှာ-“အသင်တို့၏ မိသားစုများထံသို့ ပြန်ကြလေကုန်။ ၎င်းနောက် ယင်းသူတို့ကို သာသနာ့အသိပညာများအား သင်ကြားပေး၍ လက်တွေ့ကျင့်ဆောင်မှုပြုရန် ညွှန်ကြားပါလေ။ နမားဇ်အချိန်ကျရောက်လာလျှင် အသင်တို့အနက် တစ်ဦးက အာဇာန်ဆိုပြီး အသက်အရွယ်အကြီးဆုံးသူက ရှေ့ဆောင်ဝတ်ပြုပါလေ။”

▶ **ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်း**

ဟာဖိဇ်အိဗ်နို့ရရဂျဗ်ဟမ်ဘလီ ﷺသခင်ကြီးက ဖွေကာပညာရှင်ကြီး အဗွလ်ဟာစံအလ်ကရ်ခီနှင့် ၎င်း၏ဆရာသခင်ဖြစ်သူ ဖွေကာပညာရှင်ကြီး ကာဇ္ဇီအဗူယအ်လာတို့၏ အကြောင်းအရာလေး တစ်ခုကို တင်ပြထားသည်မှာ- "တစ်ရက် ကျွန်တော်သည် ဆရာသခင် အဗူယအ်လာနှင့် လမ်းလျှောက်နေစဉ် ဆရာသခင်က ကျွန်တော့်ကို မေးမြန်းတော်မူသည်။ ဂုဏ်ပေးလေးစားထိုက်သောသူနှင့် လမ်းလျှောက်မည်ဆိုပါက အသင်သည် မည်သည့်ဘက်မှာ လျှောက်လမ်းမည်နည်း။ ကျွန်တော်မသိပါဟု ဖြေလျှောက်ခဲ့သည်။ ထိုအခါ ဆရာသခင်က မိန့်ဆိုသည်မှာ ၎င်းပုဂ္ဂိုလ်မြတ်ကို နမားဇ်ဖတ်ရာတွင် အေမာမ်နေရာ၌ နေခိုင်းစေသလိုမျိုး အသင်သည် ယင်းပုဂ္ဂိုလ်၏ ဘယ်ဘက် အနောက်ခြမ်းအားလွတ်၍ ညာဘက်အနောက်ခြမ်းမှလိုက်၍ လျှောက်လှမ်းပါလေ။ ထို့အတူ အညစ်အကြေးတစ်စုံတစ်ရာ စွန့်ပစ်လိုပါက အသင်သည် ၎င်း၏ဘယ်ဘက်မှနေပြီးစွန့်ပစ်ပါ။"

# ကြီးသူနှင့်မွန်မြတ်သူတို့ကိုဦးစားပေးခြင်း

ကိုယ်တော်မြတ် ﷺ ၏စွန္နသ်တော်ကို ကျင့်သုံးသောအားဖြင့် ထိုင်ဝိုင်း၌ အသက်ကြီးရင့်သူနှင့် မွန်မြတ်သူတို့အား ဦးစားပေး ညွှဲခံမှု၊ ဂုဏ်ပြုမှုများပြုလုပ်ပါ။ ထို့နောက် မိမိညာဘက်တွင်ရှိသူကို ညွှဲခံမှု၊ ဂုဏ်ပြုမှုများလုပ်ပါလေ။ ဤသည်နှင့်စပ်လျဉ်း၍ အထက်ပါဖော်ပြပါ ဟဒီးဆ်တော် (၂) ပုဒ်အပြင် အခြားသော ဟဒီးဆ်အမြောက်အများ လာရှိထားပေသည်။ ၎င်းတို့မှာ- (၁) အေမာမ်မွတ်စ်လင်မ်သည် မိမိကျမ်း၏ "စားသောက်ခြင်းဆိုင်ရာ စည်းကမ်းသေဝပ်မှုများ" ဟူသော အခန်းတွင် ဟဒီးဆ်တစ်ပုဒ်ကို တင်ပြထားသည်။ ဟဇရသ် ဟိုဇိုင်ဖဟ် ဗင်န်ယမားန်သခင်က ဆင့်ပြန်ခဲ့သည်မှာ-ကိုယ်တော်မြတ် ﷺ နှင့် ကျွန်ုပ်တို့အား ညွှဲခံကျွေးမွေးမှု တစ်ခုဆီသို့ ဖိတ်ကြားခြင်းခံရသော အခါကိုယ်တော်မြတ် ﷺ က အဦးဆုံး မစားသုံးသ၍ ကျွန်ုပ်တို့သည် မစားသုံးကြပါ။ ▸ **မွတ်စ်လင်မ်ကျမ်း၊ အခန်း ၁၃/ စာမျက်နှာ၁၈၇**

အေမာမ်နဝဝီသခင်က မိမိ၏ (رياض الصالحين)ကျမ်းတွင် ဤအကြောင်းအရာနှင့် ပတ်သတ်သော အခန်းကဏ္ဍတစ်ခုကို ဖွဲ့စည်းထား ပေသည်။ ၎င်းအခန်းကဏ္ဍတွင် ဟဒီးဆ်တော် အမြောက်အများ ကို

တင်ပြထားပေသည်။ ထို့နောက် ဤသို့ ခေါင်းစဉ်တည်ခဲ့လေ သည်။ "သာသနာ့ပညာရှင်များ၊ သူမွန်သူမြတ်များကို ၎င်းတို့၏အဆင့်အတန်း တို့နှင့်အညီ ဂုဏ်ပေးလေးစားခြင်းနှင့် ထိုင်ဝိုင်းများတွင် ၎င်းတို့အား ဦးစားပေးခြင်း" ရှိုက်ခ်အဗ်ဒွလ်ဖသဟ် သခင်ကြီးက ဤခေါင်းစဉ် အောက်တွင် အေမာမ်နဝဝီ တင်ပြထားသော ဟဒီးဆ်တော်များအနက် အများစုကို ဤနေရာ၌ တင်ပြထားလေသည်။

# ဦးစားပေးခြင်းဆိုင်ရာနှင့်ပတ်သတ်ပြီး လာရှိသောဟဒီးဆ်တော်များ

## ဟဇရသ်အဗူမတ်စ်အူးဒ် ﵁ သခင်၏ဆင့်ပြန်ချက်

ဟဇရသ် အဗူမတ်စ်အူးဒ်သခင် ဆင့်ပြန်တော်မူခဲ့သည်။ ကိုယ်တော်မြတ် ﷺ က မိန့်တော်မူခဲ့သည်မှာ--- ကျမ်းမြတ် ကုရ်အာန်ကို (ကောင်းမွန်စွာ) ဖတ်ရွတ်နိုင်သူသည် လူများအား ရှေ့ဆောင် ဝတ်ပြုရပေမည်။ အကယ်၍ လူများသည် ကျမ်မြတ်ကုရ်အာန် ကို (ကောင်းမွန်စွာ) ဖတ်ရွတ်နိုင်သူ များဖြစ်ကြပါက ၎င်းတို့အနက် ဟဒီးဆ်တော်များအား သိနားလည်ဆုံး သူကရှေ့ဆောင်ဝတ်ပြုရမည်။ လူတို့သည် ဟဒီးဆ်တော်များကို

သိနားလည်ကြသူများဖြစ်လျှင် ၄င်းတို့ အနက် အဦးဆုံး ဟိဂျ်ရသ် (ရွှေ့ပြောင်း) သူက ရှေ့ဆောင်ဝတ်ပြုရမည်။ လူအားလုံးသည် အဦးဆုံး ဟိဂျ်ရသ် (ပြောင်းရွှေ့) နေထိုင်သူများ ဖြစ်ကြ မည်ဆိုလျှင် ၎င်းတို့အနက် အသက်အရွယ်အကြီးဆုံးသူက ရှေ့ဆောင် ဝတ်ပြုရမည်။

▶ **မွတ်စ်လင်မ်ကျမ်း**

## ဟဇရသ် အဗ်ဒွလ္လာဟ်ဘင်န်မတ်စ်အူးဒ်သခင် ﵁ ၏ဆင့်ပြန်ချက်

ဟဇရသ် အဗ်ဒွလ္လာဟ်ဘင်န်မတ်စ်အူးဒ် သခင်ဆင့်ပြန်တော်မူခဲ့သည်။ ကိုယ်တော်မြတ် ﷺ က မိန့်တော်မူခဲ့သည်မှာ (နမားဇ်ဝတ်ပြုရာတွင်) ဉာဏ်အမြော်အမြင်ရှိသူများနှင့် ခန္တီတရားထားသူများသည် ငါကိုယ် တော်၏ အနီးအပါး၌ ဝတ်ပြုပါလေ။ ထို့နောက်မှာ အခြားအဆင့် အတန်းအသီးသီးက သူများသည် ဝတ်ပြုကြပါလေ။

▶ **မွတ်စ်လင်မ်ကျမ်း**

## ဟဇရသ် ဂျာဗိရ်သခင် ﵁ ၏ဆင့်ပြန်ချက်

ဟဇရသ်ဂျာဗိရ်သခင် ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ သည် အိုဟိုဒ်စစ်ပွဲ၌ ကျဆုံးသွားသော ရှဟီဒ်များကို နှစ်ဦးချင်းစီတွဲ၍ ကဗရ် ထဲတွင်မြှုတ်နှံတော်မူနေသည်။ ထို့နောက် ကိုယ်တော်မြတ်က

၎င်းတို့ နှစ်ဦး (မြှုပ်နှံခံရမည့်သူ(၂)ဦး) အနက် မည်သူက ကုရ်အာန်ကို သာပို၍ အလွတ်ကျက်မှတ်ထားသလဲဟု မေးမြန်းတော်မူခဲ့ရာ (ဆွဟာဗာ တစ်ပါးက) ၎င်းသူ(၂)ဦးအနက် (၁) ဦးဘက်သို့ ညွှန်ပြတော်မူခဲ့လေ သည်။ ကိုယ်တော်မြတ် ﷺ သည် ၎င်း (ကုရ်အာန်ကိုသာပို၍ အလွတ် ကျက်မှတ်ထား) သူအား ဦးစွာ ကဗရ်ကြွင်းထဲတွင် မြှုပ်နှံတော်မူခဲ့ ပေသည်။

▸ ဗိုခါရီကျမ်း

## ဟဇရသ် အဗ်နို့အိုမရ်သခင် ﷺ ၏ဆင့်ပြန်ချက်

ဟဇရသ်အဗ်နို့အိုမရ် သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ က မိန့်တော်မူခဲ့သည်--- ငါကိုယ်တော်သည် အိပ်မက်ထဲ၌ တံဗူစားနေသည်ကို မြင်မက်ခဲ့သည်။ ထိုအခိုက် လူနှစ်ဦး ငါကိုယ်တော် ထံပါးသို့ ရောက်လာခဲ့သည်။ ၎င်းသူနှစ်ဦးအနက် တစ်ဦးသည် အသက် ကြီးသူဖြစ်သည်။ ငါကိုယ်တော်သည် အသက်ငယ်သူအား လှမ်း၍ မိစ်ဝါးက် ပေးခဲ့သည်။ ငါကိုယ်တော့်အား "ကြီးသူကို ဦးစားပေးလော" ဟု (အကွယ်မှ) အသံပြုခြင်းခံရသည်။ ထို့ကြောင့် ငါကိုယ်တော်သည် အသက်ကြီးသူကို မိစ်ဝါးက် ပြန်လည်ပေးခဲ့လေသည်။

▸ မွတ်စ်လင်မ်ကျမ်း

## ဟဇရသ် အဗူမူစာအရှ်အရီ သခင် ﵁ ၏ဆင့်ပြန်ချက်

ဟဇရသ် အဗူမူစာအရှ်အရီ ဆင့်ပြန်ခဲ့သည်။ကိုယ်တော်မြတ်က မိန့်တော်မူခဲ့သည်မှာ--- ဆံဖြူပြီးအသက်ရွယ်ကြီးသူကို လေးစားခြင်း၊ ကျမ်းမြတ်ကုရ်အာန်ကို အာဂုံဆောင်၍ အလယ်အလတ်ကျကျ အမလ်ကျင့်ဆောင်သူအား ဂုဏ်ပြုခြင်း၊ မျှတစွာအုပ်ချုပ်သော ဘုရင်ကို ဂုဏ်ပေးလေးစားခြင်းတို့သည် အလ္လာဟ်အရှင်မြတ်အား ကြီးကျယ်မြင့်မြတ်တော်မူသောအရှင်အဖြစ် (ယုံကြည်ခြင်း) ပင်ဖြစ်သည်။

▶ **အဗူဒါဝူးဒ်ကျမ်း**

## ဟဇရသ် မိုင်မူးန်ဗင်န်အဘီရှဘီးဘ်သခင် ﵁ ၏ဆင့်ပြန်ချက်

ဟဇရသ် မိုင်မူးန်ဗင်န် အဘီရှဘီးဘ်သခင် ဆင့်ပြန်ခဲ့သည်မှာ ဟဇရသ်အာအေရှဟ်သခင်မသည် မိမိထံသို့ တောင်းခံသူတစ်ဦး လာသောအခါ ၎င်းကို မုန့်အပိုင်းအစလေးတစ်ခု ပေးကမ်းခဲ့လေသည်။ ထို့နောက် ဥပတိရုပ်ရှိပြီး ကောင်းမွန်သော အဝတ်အစားကို ဆင်မြန်းထားသူတစ်ဦး မိမိထံသို့ လာသောအခါ သခင်မသည် ၎င်းအား ထိုင်စေပြီး အစားအစာ (ကျွေးမွေးလေသည်။) လူအများသည် ဤအချင်းအရာနှင့် ပတ်သတ်ပြီး သခင်မကို မေးမြန်းသောအခါ သခင်မက ဤသို့မိန့်တော်မူခဲ့သည်။ "ကိုယ်တော်မြတ်က မိန့်တော်မူခဲ့သည်မှာ- အသင်တို့ လူများအား ၎င်းတို့၏ အဆင့်အတန်းနှင့်အညီ ဆက်ဆံကြပါလေ။"

▶ **အဗူဒါဝူးဒ်ကျမ်း**

## ဟဇရသ် အဗူစအီးဒ်စမူရားဗင်ဂျွန်ဒုဗ် ﵁ သခင်၏ဆင့်ပြန်ချက်

ဟဇရသ် အဗူစအီးဒ်စမူရားဗင်ဂျွန်ဒုဗ်သခင်က မိန့်ခဲ့သည်မှာ- ကျွန်တော်သည် ကိုယ်တော်မြတ်၏ ခေတ်သမယ၌ ငယ်ရွယ်သူတစ်ဦး ဖြစ်ပြီး ကိုယ်တော်မြတ်၏ ဩဝါဒတော်များကို အာဂုံဆောင်ထားသူ တစ်ဦးဖြစ်သည်။ မိမိထက် အသက်အရွယ်ကြီးသူများ ရှိနေခြင်းကြောင့် ကျွန်တော်သည် ဟဒီးဆ်တော်များကို ဆင့်ပြန်ခြင်းမပြုခဲ့ပါ။

▶ ဗိုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း

## ကောင်းမြတ်သောနည်းလမ်း

ကောင်းမြတ်သော နည်းလမ်းမှာ- အသက်ရွယ်ကြီးသူ၊ အသိပညာကြွယ်ဝသူ၊ (လူတို့အကြား) ကောင်းသောသတင်း များဖြင့် ကျော်ကြားသူ ကိုယ်တော်မြတ် ﷺ နှင့် ဆွေမျိုးတော်စပ်သူ အေမာမ် ခေါင်းဆောင်၊ အလ္လာဟ်လမ်းတော်၌ စစ်ဆင်နွှဲသူ၊ ကောင်းမြတ်သော နေရာများတွင် ရက်ရက်ရောရောပေးကမ်းစွန့်ကြဲသူ၊ စသည့် ထူးကဲ မွန်မြတ်သူတို့အား (ကိစ္စအဝဝမှာ) ဦးစားပေးခြင်းဖြစ်သည်။ ထို့အတူ ကြီးမြတ်သူတို့ကို ဦးစားပေးခြင်းနှင့် ပတ်သတ်ပြီး လာရှိထားသော ဟဒီးဆ်တော်များနှင့် ညာဘက်တွင်ရှိနေကြသောသူများအား ဦးစားပေး ခြင်းနှင့်ပတ်သတ်ပြီး တိုက်တွန်းနှိုးဆော်ထားသော ဟဒီးဆ်တော်များ ကို ညှိနှိုင်းပေါင်းစည်း၍ (အမလ်) ကျင့်ဆောင်သောအားဖြင့် ညာဘက်၌ ရှိနေကြသူတို့အား (ဒုတိယ) အနေနှင့် ဦးစားပေးရမည်။

# လူတစ်ချို့၏နားလည်မှုလွဲမှားခြင်း

လူတစ်ချို့သည် (အထက်ဖော်ပြပါ) ဟဒီးဆ်တော်များကို လွဲမှားစွာ အဓိပ္ပါယ်ကောက်ယူကြပြီး နားလည်ထားကြသည်မှာ “စွန္နသ်တော်တစ်ခုမှာ- ဧည့်ခံသူ (အိမ်ရှင်)၏ ညာဘက်တွင်ရှိသူအား ဦးစားပေးခြင်းဖြစ်သည်။” ဟုပြောဆိုကြသည်။ ထိုကဲ့သို့ ပြောဆိုကြခြင်းသည် “ညာဘက်တွင် ရှိသူတို့ကို ဦးစားပေး”ဟု မိန့်မြွက်ထားသော ဟဒီးဆ်တော်များအား မှီငြမ်းကိုးကား၍ ပြောဆိုကြခြင်းဖြစ်သည်။ စင်စစ် ထိုမိန့်မြွက်ချက်သည် ထိုင်ဝိုင်း၌ ရှိကြသူတို့ အားလုံးသည် အသက်အရွယ်အရ၊ ထူးမြတ်မှုအရ တူညီကြသူများနှင့် စပ်လျဉ်း၍ လာရှိထားပေသည်။ ထိုအခြေအနေမျိုးတွင် ဧည့်ခံသူ၏ ညာဘက်၌ ရှိသူကို ဦးစားပေးရပေမည်။

အကယ်၍ ထိုင်းဝိုင်း၌ ရှိကြသူများသည် ထူးမြတ်သူများ ဖြစ်ကြပြီး ၎င်းတို့အနက် တစ်ဦးသည် အသက်အရွယ်ကြီးသူဖြစ်လျှင် ၎င်းသူအား ဦးစားပေးရမည်။ အကြောင်းမှာ ယင်းအသက်ရွယ်ကြီးသူသည် အခြားသူများထက် ဦးစားပေးထိုက်သော အရည်အချင်းတစ်ခုကို ပိုင်ဆိုင်ထားသောကြောင့်ပင်။

# အေမာမ်အိဗ်နိဳ႕ ရိုရွ္ဒ္၏အမိန္႔ဆိုခ်က္

အေမာမ်အိဗ်နိဳ႕ရိုရွ္ဒ္က မိမိ၏ ၿပီးျပည့္စုံလွေသာ ٱلْبَيَانُ وَٱلتَّحْصِيْلُ က်မ္း၌အမိန္႔ရွိထားသည္မွာ- အကယ္၍ ထိုင္ပိုင္းတြင္ရွိၾက ေသာသူမ်ား ၏ အရည္အခ်င္းတို႔သည္ တေျပးညီတည္း ျဖစ္ေနပါက ညာဘက္ ၌ရွိသူကို ဦးစားေပးရမည္။ ထိုကဲ့သို႔ ျပဳမူျခင္းသည္ ေကာင္း ျမတ္ေသာ အက်င့္စာရိတ္တမ်ားအနက္မွျဖစ္သည္။ ထို႔အတူ (အဆင့္အတန္းတူ ညီသူမ်ား)အၾကား တစ္ဦးကိုတစ္ဦးထက္ (အေၾကာင္းမဲ့) ဦးစားေပး သည့္သေဘာ မသက္ေရာက္ေစရန္လည္း ျဖစ္သည္။ သို႔ေသာ္ ထိုင္ဝိုင္း ၌ ပညာရွင္မ်ား သူမြန္သူျမတ္မ်ား၊ အသက္အရြယ္ႀကီးသူမ်ား ရွိပါက ၎င္းတို႔အား ဦးစားေပးရမည္။ ထို႔ေနာက္ ညာဘက္၌ရွိသူတို႔ကို ဦးစားေပးရမည္။ အေၾကာင္းမွာ ကိုယ္ေတာ္ျမတ္ ﷺ သည္ မိမိထံ ေရာက္လာေသာ ေရႏွင့္ေရာထားသည့္နို႔ကို ေသာက္သုံးေတာ္မူၿပီး မိမိ ဘယ္ဘက္၌ရွိေသာ ဟဇရသ္အဗူဗကရ္အား မေသာက္သုံးခိုင္းဘဲ ညာဘက္၌ရွိေသာ ေက်းေတာသားကို ေသာက္သုံးေစခဲ့ေသာေၾကာင့္ ျဖစ္သည္။ ထို႔ေနာက္ ကိုယ္ေတာ္ျမတ္က "ညာဘက္မွာရွိသူကိုဦးစားေပး ေလာ"ဟုႏွစ္ႀကိမ္မိန္႔ဆိုခဲ့သည္။

ထို့ကြောင့် ဘယ်ဘက်၌ရှိသူသည် အသိပညာ၊ ထွတ်မြတ်မှု၊ အသက်အရွယ်ကြီးခြင်း တို့ကြောင့် ဦးစားပေးထိုက်သူ ဖြစ်လင့်ကစား ညာဘက်၌ ရှိသူထံမှ ခွင့်ပြုချက် တောင်းခံပြီးမှသာလျှင် ၎င်း ဘယ်ဘက်၌ရှိသူကို ဦးစားပေးရမည်။ အကြောင်းမှု ကိုယ်တော်မြတ် ﷺ သည် မိမိထံဆက်သလာသော သောက်စရာတစ်ခုကို သောက်သုံးတော်မူပြီး မိမိညာဘက်၌ရှိသော လူငယ်ကို ဤသို့ မေးမြန်းတော်မူခဲ့သည့် အတွက်ကြောင့်ပင်။ ၎င်းမှာ ငါကိုယ်တော်သည် ဘယ်ဘက်၌ရှိကြသောအကြီးအကဲများကို အဦးဆုံး သောက်သုံးစေမည် ဆိုပါက အသင်ခွင့်ပြုပါမည်လော။ ထိုအခါ လူငယ်က ဤသို့ ဖြေလျှောက်ခဲ့လေသည်။ "ကိုယ်တော်မြတ်ထံတော်မှ ရရှိမည့် ကျွန်ုပ်၏အခွင့်အရေးအားမည်သူတစ်ဦးတစ်ယောက်ကိုမျှ ဦးစားမပေးနိုင်ပါ။ တစ်ဆက်တည်းမှာပင် ကိုယ်တော်မြတ် ﷺ သည် ၎င်းသောက်စရာကို လူငယ်အားလှမ်း၍ပေးတော်မူခဲ့သည်။ ကျွန်ုပ်အထက်တွင်တင်ပြခဲ့သည့်အတိုင်း ထိုင်ဝိုင်း၌ ဦးစားပေးထိုက်သော အရည်အချင်းရှင်တစ်ဦး တစ်ယောက်မျှမရှိပါက ညာဘက်၌ရှိသူကို ဦးစားပေးခြင်းသည် ရှရီအသ်တရားတော်တွင်ထုတ်ပြန်ထားသော အချက်ဖြစ်သည်။ သို့သော်ထိုင်ဝိုင်း၌ ထိုသို့ထူးခြားဝိသေသရှင်များ ရှိနေလျှင် ၎င်းပုဂ္ဂိုလ်များကို ဦးစားပေးရမည်သာဖြစ်သည်။ ငယ်ရွယ်သူ၊ ထိုင်ဝိုင်း၏အကြီးအကဲကို ပြုစုသူ၊ မွတ်စ်လင်မ်မဟုတ်သောအစီးအနင်းမောင်းနှင်သူများနှင့် ထိုင်ဝိုင်း၏ ဂုဏ်ကျက်သရေဆောင်များဖြစ်ကြသော သာသနာ့ပညာရှင်၊ ခေါင်း

ဆောင်အကြီးအကဲတို့အား ခရီး၌ အဖော်ပြုလုပ်ပေးသူများသည် ဧည့်ခံသူအိမ်ရှင်၏ညာဘက်၌ရှိနေပါကထူးကဲမြင့်မြတ်သူများထက် ၎င်းတို့အား ဦးစားပေးရမည်ဟူသော ပြောဆိုချက်သည် အစ္စလာမ်က ပြဆိုထားသော စည်းကမ်းချက်များနှင့် လမ်းညွှန်ချက်များအရ ပိုင်မည်လော.....။ ထိုအတူ ၎င်းညာဘက်၌ရှိသူတို့သည် ဆယ်ဦး(သို့) နှစ်ဆယ်ဦးရှေဖြစ်ပါက ဧည့်ခံသူသည် အကြီးအကဲများ ထက် ၎င်းတို့ကို ဦးစားပေးပိုင်ပါသလား.....။

ထိုသို့အရိုအသေကင်းမဲ့ခြင်း၊ မွတ်စ်လင်မ်တစ်ဦး၏ ဗီဇအလျောက်ဆင်မြန်းအပ်သောအလှတရားများကိုထိခိုက်စေခြင်းတို့သည်အစ္စလာမ့်လမ်းညွှန်ချက်များ၊ စည်းကမ်းချက်များနှင့် မည်သို့မျှမသက်ဆိုင်ပေ။ သို့သော် ငယ်ရွယ်သူ၊ အဆင့်နိမ့်သူတစ်ဦးဦးက ဆာလောင်မွတ်သိပ်မှုကြောင့် ရေတောင်းခံလာပါက ၎င်းသူကို ဦးစားပေးရမည်။ ထို့နောက် ညာဘက်၌ရှိသူကို ဦးစားပေးရမည်။ ထိုညာဘက်၌ ရှိသူသည် အသက်အရွယ်ငယ်သူ၊ အဆင့်နိမ့်သူဖြစ်နေလျှင်လည်း ၎င်းကို ဦးစားပေးရမည်။

ထိုသို့ တောင်းခံမှုတစ်ခုခု လက်ကမ်းပေးသည့်အခါ (ထိုင်ဝိုင်း၌) ဦးစားပေးထိုက်သူတစ်ဦးဦး ရှိနေလင့်ကစား ၎င်းတောင်းခံမှု ပြုသူကို ဦးစားပေးရမည်။ ဤသည် အစ္စလာမ်ကပြဆိုသော ဦးစားပေးခြင်းဆိုင်ရာ လမ်းညွှန်ချက်ကို ထောက်ထားခြင်းဖြစ်သကဲ့သို့ ထိုသို့

ဆောင်ရွက်သူသည် မြင့်မားသော အဆင့် အတန်းနှင့်၊ ကြီးမားသော အကျိုးစဝါးဗ်များကို ဆွတ်ခူးရယူ လိုက်ခြင်းလည်းဖြစ် သည်။

## မိဘနှစ်ပါးအားရိုသေစွာဆက်ဆံခြင်း

မိဘနှစ်ပါးအား အထူးတလည်ရိုသေစွာ ဆက်ဆံရမည်။ ၎င်းတို့ နှစ်ဦးသည် ရိုသေစွာ ဆက်ဆံခြင်းကို ခံယူထိုက်သူများ ဖြစ်သည်။ (ဤသည်နှင့်စပ်လျဉ်း၍ အောက်ပါဟဒီဆ်များက မီးမောင်းထိုးပြနေပါသည်။၎င်းတို့မှာ.....

(၁) လူတစ်ဦးကိုယ်တော်မြတ် ﷺ ထံလာရောက်၍ ဤသို့ မေးလျှောက်သည်မှာ အိုး.......ကိုယ်တော်.......လူများအနက် ကျွန်တော် ကောင်းမွန်စွာ ဆက်ဆံထိုက်သူသည် မည်သူပါနည်း ထိုအခါ ကိုယ်တော်မြတ်က အသင့်မိခင်ဖြစ်သည်ဟု သုံးကြိမ်သုံးခါ မိန့်ဆိုခဲ့သည်။ ထို့နောက် အသင့်ဖခင်နှင့် အသင့်အနီးအပါးတွင် ရှိသူတို့ ဖြစ်ကြသည်ဟု မိန့်ဆိုခဲ့သည်။ ▸ **ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်း**

(၂) ဟာဇရသ်ပေဟုရှားမ်က မိမိဖခင်အွရ်ဝါးဟ်ထံမှ ဆင့်ပြန်ခဲ့သည်မှာ- လူတစ်ဦးရှေ့မှ လမ်းဖြတ်လျှောက်သွားသော လူငယ်ကို ဟာဇရသ် အဗူဟုရိုင်ရဟ်က တွေ့မြင်သောအခါ သခင်ကြီးသည် ၎င်းလမ်းဖြတ်

လျှောက်သွားသူ (ကိုဉာဏ်သို့မေးမြန်းခဲ့သည်မှာ-အသင် ၎င်းသူနှင့် ဘာတော်စပ်ပါသလဲ....ကျွန်ုပ်၏ ဖခင်တော်စပ်သူဖြစ်ပါသည်ဟု ထိုလူငယ်ကဖြေကြားခဲ့သည်။ ထိုအခါ သခင်က မိန့်ဆိုသည်မှာ အသင့်ဖခင်ကို ဖြတ်ကျော်၍ လမ်းမလျှောက်ပါလေနှင့်။ ထို့အတူ အသင့်ဖခင်မထိုင်သရွေ့ မထိုင်ပါလေနှင့်။ ထို့နောက် အသင်သည် ၎င်းအား နာမည်တပ်၍ မခေါ်ပါလေနှင့်။ ▶ **မိုဆွန်နဖ်အဗ်ဒွရ်ရဇ္ဇားက်-၁၃၈**

(၃) အေမာမ်အိဗ်နို့ဂပာဗ်က ဆင့်ပြန်ခဲ့သည်မှာအေမာမ်မာလစ်က်၏-တပည့်ဖြစ်သူ အေမာမ်အဗ္ဗဒွရ်ရဟ်မားန်သခင်သည် (မိုဝသ်သွားအ်) ကျမ်းကို ပို့ချနေစဉ် အချိန်ကြာမြင့်စွာ မတ်တပ်ရပ်၍ထိုင်ခဲ့လေသည်။ ဉာသည်နှင့် စပ်လျဉ်း၍ မေးမြန်းသောအခါ သခင်က ဖြေကြားသည်မှာ.ကျွန်ုပ်၏မိခင်သည် (အပေါ်မှ) ဆင်းလာပြီး မတ်တပ်ရပ်ပြီး လိုအပ်ချက် တစ်စုံတစ်ရာ တောင်းခံသောအခါ ကျွန်ုပ်သည်လည်း မတ်တပ်ရပ်ခဲ့သည်။ မိခင်ကြီးအပေါ်သို့ ပြန်တက်သွားသော အခါ ကျွန်ုပ်ထိုင်ခဲ့လေသည်။ ▶ **သရ်သီးဘွလ်မဒါရီက်- ၃/ ၂၅၈**

(၄) သာဗေအီကြီးဟာဇရသ်သွာအူးစ်သခင် မိန့်ဆိုသည်မှာ-ကောင်းမြတ်သောနည်းလမ်းသည် လေးဦးသော ပုဂ္ဂိုလ်တို့အား ဂုဏ်ပေးလေးစားခြင်းဖြစ်သည်။ ၎င်းတို့မှာ-အသိပညာရှင်၊ အသက်ကြီးသူ၊ ဘုရင်၊ ဖခင်တို့ဖြစ်ကြသည် မကောင်းသော လမ်းစဉ်သည် ဖခင်ကို နာမည်တပ်ခေါ်ခြင်းဖြစ်သည်။ ▶ **သာရိုးခ်မဒီနာသွဆ်ဆွန်အား-၃၃၃**

# အေမာမ်အိဗ်နို့ အဗ်ဒွလ်ဘိရ်၏မိန့်ဆိုချက်

အေမာမ်အိဗ်နို့အဗ်ဒွလ်ဘိရ်သည် မိမိ၏ကျမ်း (အလ်ကာဖီ)၏အဆုံးတွင် မိန့်ဆိုထားသည်မှာ---မိဘနှစ်ပါးကို ကောင်းမွန်စွာဆက်ဆံခြင်းသည် အရေးကြီးသော တာဝန်တစ်ရပ် ဖြစ်သည်။ အလ္လာဟ်အရှင် လွယ်ကူမှုပေးသောသူများအဖို့ ထိုတာဝန်ကို ထမ်းဆောင်ရန် လွယ်ကူပေမည်။ မိဘနှစ်ပါးကို ကောင်းမွန်စွာ ဆက်ဆံခြင်းဟူသည်မှာ--- ၎င်းတို့ကို ကြင်နာယုယခြင်း၊ ချိုသာစွာပြောဆိုခြင်း၊ ချစ်ခြင်း၊ ကြည်ညိုခြင်းများ ပြည့်လျှံနေသော အကြည့်ဖြင့်ရှုခြင်း၊ ၎င်းတို့နှင့် စကားပြောဆိုသော ၎င်းတို့ ကြားနိုင်မည့် အတိုင်းအတာထက် ကျယ်လောင်စွာ စကားမပြောဆိုခြင်း၊ ၎င်းတို့အား ပေးကမ်းစွန့်ကြဲခြင်း၊ ကိုယ်ကျိုးမဖက်ဘဲ ၎င်းတို့ကို ကျွေးမွေးစောက်ရှောက်ခြင်းတို့ဖြစ်ကြသည်။

ထို့အတူ လမ်းလျှောက်ခြင်း၊ စကားပြောဆိုခြင်း၊ စသော အခြေအနေမျိုးများတွင် ဖခင်၏အလျှင် လမ်းလျှောက်ခြင်း၊ စကားပြောဆိုခြင်းများ မပြုအပ်ပေ။ မိမိ၏ လုပ်ရပ်တစ်ခုခုကြောင့် မိဘနှစ်ပါးကိုဒေါသမဖြစ်စေလေနှင့်။ သို့သာမက ၎င်းတို့နှစ်ဦး ပျော်ရွှင်မှုရရှိရန်

အစွမ်းကုန် ကြိုးစားအားထုတ်ရပေမည်။ မိဘနှစ်ပါးအား ထိုသို့ ပျော်ရွှင်မှုပေးခြင်းသည် အမွန်မြတ်ဆုံးလုပ်ရပ်ဖြစ်သည်။

မိဘနှစ်ပါးအနက် တစ်ဦးဦးသည် မိမိ နဖိလ်နမားဇ်ဖတ်နေစဉ် ခေါ်သောအခါ နမားဇ်ကို အမြန်ဆုံး အဆုံးသတ်၍ လျှင်မြန်စွာ အဖြေပေးရမည်။ ၎င်းတို့နှင့် စကားပြောဆိုသောအခါ၌လည်း သိမ်မွေ့စွာပြောဆိုရမည်။မိဘနှစ်ပါးသည်လည်းသားသမီးများကိုကြင်နာယုယစွာ ဆက်ဆံခြင်းဖြင့် ၎င်းတို့ကြား သာလွန်ကောင်းမြတ်ပြီး ခိုင်မာသော ဆက်ဆံရေးများ ဖြစ်ပေါ်လာမည်။ ဤနည်းအတိုင်းပင် လူသားသည် ကောင်းမှုများ ကျင့်ဆောင်ရန် အလ္လာဟ်အရှင်မြတ်၏ အကူအညီဖြင့် သာ ဖြစ်နိုင်ပေသည်။

# ဆွေမျိုးစပ်သူတို့အပေါ် ကြင်နာမှုနှင့် ဆက်ဆံမှု

မိမိ၏ဖခင်၊ လေးစားထိုက်သော ဆွေမျိုးတော်စပ်သူ၊ အရွယ်တူ သူငယ်ချင်း၊ အသက်ငယ်သောသူငယ်ချင်း၊ စသည့် ပုဂ္ဂိုလ်များအား ခရီးဦးကြိုပြုသည့် အခါ၌လည်းကောင်း၊ ၎င်းတို့က အသင့်ကို ခရီးဦး ကြိုပြုသည့် အခါ၌လည်းကောင်း၊ မိမိ၏ တစ်ကိုယ်ရည် သန့်ရှင်းရေး နှင့် အပြင်ပိုင်း အဆင်းသဏ္ဍာန်တို့ကို သပ်ရပ်စွာ ချယ်မှုန်းထားရပေ မည်။ အကြောင်းမှာ ထိုသို့သော လှပသေသပ်ခြင်းနှင့် သန့်စင်မွှန်မြတ် ခြင်းတို့သည် ဟဒယနှလုံး ရွှင်ပြုံးစေသောကြောင့်ပင်။

ထို့ကြောင့် မိမိချစ်ခင်သူ၊ ကြည်ညိုသူတို့နှင့် ပျော်ပျော်ပါးပါး ဆုံမက်ဖို့ရာ အပြင်ပိုင်းသဏ္ဍာန်အား လှလှပပ ချယ်သထားရပေမည်။

ဤသည်နှင့် ပတ်သတ်၍ ကိုယ်တော်မြတ် ﷺ က အောက်ဖော်ပြပါ ဟဒီးဆ်တော်ဖြင့် အတိအလင်း မိန့်မြွတ်ထားပေသည်။ ၎င်းမှာ --ကိုယ်တော်မြတ်သည် ဆွဟာဗာသာဝကကြီးများအား မိန့်ဆိုသည်မှာ အသင်တို့သည် တနယ်တကျေးရှိ ညီအစ်ကိုများဆီသို့ သွားကြရ မည်ဖြစ်သည်။ လူပုံအလယ်တွင် တမူထူးခြား၍ လှပတင့်တယ်ဖို့ရာ အသင်တို့သည်

အစီးအနင်းများကို သေသပ်စွာစီမံကြပါ။ အဝတ်အစား များကိုလည်း သပ်ရပ်စွာ ဆင်မြန်းကြပါလေ။ အကြောင်းမှာ အလ္လာဟ် အရှင်မြတ်သည် ညစ်ညမ်းခြင်းနှင့် ညစ်ညမ်းစွာ နေထိုင်ခြင်းတို့ကို မနှစ်သက်တော်မူသော ကြောင့်ပင်ဖြစ်သည်။

**▶ အဗူဒါဝူးဒ်ကျမ်း**

မိမိထံ လာရောက်တွေ့ဆုံသော ဧည့်သည်အတွက်လည်းကောင်း၊ မိမိကိုယ်တိုင် သွားရောက် တွေ့ဆုံမည့် သူအတွက် လည်းကောင်း၊ လက်ဆောင်ပဏ္ဏာတစ်ခုခု ဆက်သခြင်း၊ ယူဆောင် သွားခြင်းသည် ကောင်းမြတ်သော လုပ်ရပ်ဖြစ်သည်။ ထို့အတူ လက်ဆောင်ပဏ္ဏာ များပေးခြင်းဖြင့် အချင်းချင်းကြား ချစ်ခင်မှုများ၊ ဆက်နွယ်မှုများ တိုးပွားခိုင်မာလာပေမည်။

ကိုယ်တော်မြတ် ﷺ သည် ဤသို့မိန့်ဆိုထားပေသည်။ "အသင်တို့ သည် တစ်ဦးကိုတစ်ဦး လက်ဆောင် ပဏ္ဏာများ ပေးကမ်းကြကုန်။ သို့မှသာ အချင်းချင်း ချစ်ခင်ကြပေလိမ့်မည်။

**▶ အလ်အဒဗွလ်မွတ်ဖ်ရက်ဒ်ကျမ်း**

ရှေးယခင် သူတော်စင်ကြီးများသည်လည်း မည်မျှပင် သေးငယ်သော လက်ဆောင်ကိုဖြစ်စေ မိမိတို့သွားရောက်တွေ့ဆုံသည့် သူတို့အား ပေးဆောင်လေ့ရှိခဲ့ကြသည်။

# ဧည့်သည်အားပျူငှာစွာဆက်ဆံခြင်း

မိမိအိမ်သို့ ဧည့်သည်အဖြစ် ရောက်လာသူကို ပျူငှာစွာ ဧည့်ခံရမည်။ အိပ်စက်အနားယူရန် ကောင်းမွန်သော နေရာတစ်ခုကို စီမံပေးရမည်။ ၎င်းအား ကစ်ဗ်ဗလာ (အနောက်မျက်နှာမူရာအရပ်) ဝိုဇူပြုလုပ်သည့် နေရာတို့ကိုလည်း ညွှန်ကြားပြသပေးရပေမည်။ ဧည့်သည်အတွက် ဝိုဇူပြုပြီးသောအခါတွင် သန့်ပြန့်သော မျက်နှာသုတ်ပုဝါကို စီမံပေးရမည်။ ထို့အတူ အစာအစာစားပြီးသောအခါတွင် ၎င်းအတွက် သန့်ပြန့်သော လက်သုတ်ပုဝါအား စီစဉ်ပေးရမည်။ ဧည့်သည် အသုံးပြုရန် ရေမွှေး၊ မှန်တို့ကိုလည်း စီမံပေးရမည်။ ဧည့်သည်အား စိတ်မကြည်မသာဖြစ်စေမည့် အိမ်သာထဲ၌ရှိသော အညစ်အကြေးများကို စင်ကြယ်အောင်ပြုလုပ်ရမည်။ အချုပ်ဆိုသော် ဧည့်သည်၏ တစ်ကိုယ်ရည်အသုံးပြုမည့် ပစ္စည်းများသည် စင်ကြယ်သန့်ရှင်းနေရမည်။

ဧည့်သည် အိပ်စက်အနားယူချိန်တွင် အိမ်၏ဆူညံသံများနှင့် ကလေးများ၏အော်ဟစ်သံတို့ မဖြစ်ပေါ်စေရန် အထူးဂရုပြုရမည်။ အိမ်အတွင်းရှိအမျိုးသမီးတို့၏ အခြေအနေအရပ်ရပ်များကို အတတ်နိုင်ဆုံး ၎င်း၏မျက်ကွယ်ရာ၌ ဆောင်ရွက်စေရမည်။ ဤသည် အိမ်ရှင်နှင့် ဧည့်သည်

တို့အတွက် မျက်နှာပန်းလှစရာဖြစ်သလို ဆောင့်ထိန်းအပ်သော သိက္ခာ တရားလည်းဖြစ်သည်။ ဧည့်သည်နှင့် မိမိကြားဝယ် မည်မျှပင် ချစ်ခင် ရင်းနှီးမှုများရှိနေပါစေ ၎င်းအား ဧည့်ခံရာတွင် လျှော့နည်းမှုများမဖြစ် စေရပါ။ သို့လင့်ကစား ၎င်းကို နွေးထွေးပျူငှာစွာ ဧည့်ခံသမှုပြုရပေ မည်။ ဤသို့ပင် ရှေးပုဂ္ဂိုလ်မွန်များ ဆောင်ရွက်ခဲ့ကြပေသည်။

**▶ အလ်အဒဗ္ဗလ်မွဖ်ရက်ဒ်ကျမ်း**

ထို့အတူ မိမိသည် မိတ်ဆွေ၊ ဆွေမျိုးသားချင်း တစ်ဦးဦးထံသို့ ဧည့်သည်အဖြစ် သွားရောက်ပါက တတ်နိုင်သမျှ ရက်အနည်းငယ်သာ နေထိုင်ပါ။ ဤသည် ၎င်း (အိမ်ရှင်)၏ အလုပ်တာဝန်အချိန်များကို ထောက်ထားခြင်းဖြစ်သကဲ့သို့၎င်းအားဝန်ထုတ်ဝန်ပိုးမဖြစ်စေခြင်း လည်း ဖြစ်သည်။ အကြောင်းမှာ လူတိုင်းတွင် အလုပ်တာဝန်များ ရှိနေသော ကြောင့်ပင်။ သို့ဖြစ်၍ ၎င်း (အိမ်ရှင်) ကို စာနာထောက်ထားသော အားဖြင့် ၎င်း၏ တစ်ကိုယ်ရည် ကိစ္စအဝဝနှင့် လုပ်ငန်းတာဝန်တို့အား ဖေးမကူညီပါလေ။ မိမိသည် (အိမ်ရှင်၏) အိမ်တွင်းပိုင်းကို စုံစမ်း ထောက်လမ်းသောအနေဖြင့် မကြည့်ရပါ။ ကိစ္စတခုခုကြောင့်မိမိနေထိုင်ရာဧည့်ခန်းမှအိမ်၏အခြားနေရာတစ်ခုခု ဆီ ခေါ်ဆောင်ခဲ့ပါ လျှင် မိမိ၏အရှုကို ထိန်းသိမ်းရပေမည်။ ၎င်းနေရာ၌ မမြင်ဝံ့သော အရာများ ရှိကောင်းရှိနေပေလိမ့်မည်။ ဤသို့ပင် မိမိသည် အိမ်ရှင်ကို မလိုအပ်သော မေးခွန်းများ မမေးအပ်ပေ။

# လူမမာမေးမြန်းခြင်း

မွတ်စ်လင်မ်ညီနောင်တစ်ဦးဦးနှင့် ပတ်သတ်ပြီး မိမိပေါ်ရှိသော တာဝန်တစ်ရပ်မှာ နာမကျန်းဖြစ်သည့်အခါ ၎င်ထံသို့ သွားရောက်၍ လူမမာမေးမြန်းခြင်း ဖြစ်သည်။ ထိုသို့ (လူမမာမေးမြန်းခြင်း) သည် အစ္စလာမ်က မျိုးစေ့ချခဲ့သော မွတ်စ်လင်မ်အချင်းချင်းကြား အချစ်ပန်း များဝေဆာစေသည့် ပန်းဥယျာဥ်ကြီးကို ရေလောင်းပေါင်းသင်ခြင်းပင် ဖြစ်သည်။ ထို့အတူ အကျိုးစဂါးဗ်ကို လိုလားတောင်းတသူအား အကျိုး ထူးများဖြင့် သိုက်မြိုက်စေခြင်းဖြစ်သည်။

ကိုယ်တော်မြတ် ﷺ က မိန့်တော်မူခဲ့သည်မှာ-မွတ်စ်လင်မ် တစ်ဦး သည် အခြားမွတ်စ်လင်မ်တစ်ဦးထံသို့ သွားရောက်၍ လူမမာမေး မြန်း ခဲ့ပါက ၎င်း (လူမမာမေးမြန်းသူ) သည် (မိမိအိမ်သို့) မပြန်လာသ၍ ဂျန္နသ်၏ ဥယျာဥ်တစ်ခုတွင် စမ်းမြန်းနေရမည် ဖြစ်သည်။ ထိုအခါ (ဆွဟာဗာများက) မေးလျှောက်သည်မှာ အိုး......ကိုယ်တော်.....**خرفه** (ခွရ်ဖွာ)ဆိုတာဘာလဲ (**خرفه**) ဆိုတာ ဂျန္နသ်၏ဥယျာဥ်များအနက် တစ်ခုဖြစ်သည်ဟု ကိုယ်တော်မြတ် ﷺ က ဖြေကြားတော်မူခဲ့သည်။

**(မွတ်စ်လင်မ်ကျမ်း)**

ထို့အတူ ကိုယ်တော်မြတ် ﷺ က နောက်ဟာဒီးဆ်တော် တစ်ပုဒ်တွင် မိန့်ဆိုထားသည်မှာ လူမမာသွားရောက်မေးမြန်းသူသည် လူမမာနားသို့ မရောက်သေးသရွေ့ အလ္လာဟ်အရှင်မြတ်၏ကရုဏာ အေးရိပ်သို့ အရောက်လှမ်းနေသူ ဖြစ်သည်။ လူမမာအနားသို့ ရောက်လာ၍ ထိုင်လိုက်သောအခါ ၎င်းသူသည်အရှင်မြတ်၏ ကရုဏာ အေးရိပ်ထဲတွင် ပိုက်ထွေးခံရသူ ဖြစ်သွားသည်။

▶ **မွတ်စ်နက်ဒ်အေမာမ်အဟ်မဒ်နှင့်ဆွဟီးအိဗ်နိ့ဟိဗ်ဗားန်ကျမ်း**

# လူမမာမေးမြန်းရာ၌ကျင့်ရန်များနှင့် ကြဉ်ရန်များ

လူမမာမေးမြန်းသူသည် လူမမာမေးမြန်းသည့်အခါ ကျင့်ရန်များကိုဆောင်၍ ကြဉ်ရန်များကိုလည်း ရှောင်အပ်ပေသည် သို့မှသာလျှင် ၎င်း၏ (လူမမာမေးမြန်းခြင်းသည်) အနစ်သာရရှိသော မေးမြန်းခြင်း ဖြစ်ပြီး လူမမာအား ပျော်ရွှင်မှုများနှင့် အားတက်စရာများ ဖြစ်စေမည်။ ထို့အတူ ခန္တီရားများကို တိုးပွားစေပြီး အရှင့်ထံမှ အကျိုးစပါးဗ်များကို မျှော်ကိုးအားထားချင်စိတ်များ ဖြစ်ပေါ်စေမည်။ လူမမာမေးမြန်းသူသည် လူမမာနားတွင် အချိန်ကြာမြင့်စွာ မထိုင်အပ်ပေ။ အကြောင်းမှာ လူမမာ၌ တစ်ကိုယ်တည်း သီးသန့်အနားယူသည့် အချိန်ရှိနေခြင်းကို ထောက်ထားစေလိုသောကြောင့် ဖြစ်သည်။ ထိုအချိန်များ၌ ၎င်းသည်

မည်သူတစ်ဦးတစ်ယောက်ကိုမျှ တွေ့ဆုံခွင့်ပြုမည် မဟုတ်ပေ။ စင်စစ် လူမမာမေးမြန်းသူသည် လူမမာနားတွင် ဂျူမိုအာခွသ်ဗာ နှစ်ခုအကြား ထိုင်သည့်တဒင်္ဂအချိန်မျှပင် ထိုင်ရပေမည်။

အေမာမ်အိဗ်နို့အဗ်ဒွလ်ဘရ်က မိမိ၏ (အလ်ကာဖီ) ကျမ်းအဆုံးတွင် မိန့်ဆိုထားသည်မှာ လူတစ်ဦးသည် နာမကျန်းဖြစ်သူထံသို့ သွားရောက် မေးမြန်းခဲ့သည်သော်လည်းကောင်း၊ ကျန်းမာသူတစ်ဦးထံသို့ အလည် အပတ်သွားခဲ့သည်သော်လည်းကောင်း၊အိမ်ရှင်ကထိုင်ခိုင်းသောနေရာ၌ သာထိုင်ရပေမည်။ အကြောင်းမှာ အိမ်ရှင်သည် မိမိအိမ်၏ မမြင်ပံ့သော အခြေအနေ အရပ်ရပ်တို့ကို အသိဆုံးသူ ဖြစ်သော ကြောင့်ပင် လူမမာမေးမြန်းခြင်းသည် စွန္နသ်မိုအက္ကဒါဟ် (အထူးအလေး အနက်ထား၍ ဆောင်ရွက်ရသောလုပ်ငန်းစဉ်) ဖြစ်သည်။ လူမမာ မေးမြန်းရာ၌ အကောင်းဆုံးနည်းလမ်းမှာ လူမမာအနားတွင် အချိန် ခဏတာထိုင်ခြင်းဖြစ်သည်။ သို့သော် လူမမာသည် မိမိ၏ ခင်မင် ရင်နှီးသော မိတ်ဆွေဖြစ်ပြီး အချိန်ကြာမြင့်စွာ ထိုင်ခြင်းဖြင့် ၎င်းအား ပျော်ရွှင်ကြည်နူးမှုများ ပေးစွမ်းပါက (ထိုသို့ထိုင်ပေးခြင်းသည်) အပြစ်မဆို အပ်ပေ။

လူမမာမေးမြန်းသူသည် မွှေးကြိုင်သန့်ရှင်းသော အဝတ်စားကို ဝတ်ဆင်၍ လူမမာထံသို့ လာရပေမည်။ သို့မသာလျှင် လူမမာသည် ရောဂါပို၍ မဆိုးဝါးဘဲ စိတ်ကြည်နူးမှုများ ရရှိပေမည်။ လူမမာမေးမြန်း

သူသည် သစ်လွင်တောက်ပသော အဝတ်အစားဆင်မြန်း၍ လူမမာထံသို့ မသွားသင့်ပေ။ ထို့အတူ လွန်စွာရနံ့ပြင်းသော အမွှေးအကြိုင်များကို သုတ်လိမ်း၍ မဝင်ရောက်အပ်ပေ။ အကြောင်းမှာ လူမမာသည် ခံနိုင်ရည်မရှိသူ ဖြစ်သည့်အလျောက် ၎င်းကို စိတ်ဒုက္ခပေးရာရောက်သောကြောင့်ပင်။ လူမမာမေးမြန်းသူသည် လူမမာအား စိတ်သောကရောက်စေမည့် သတင်းစကားများနှင့် ၎င်း၏ ရောဂါပိုတိုးပွားစေမည့် အကြောင်းများကို မပြောအပ်ပေ။ ပမာဆိုရသော် ၎င်းတို့နှစ်ဦး၏ ဆပ်တူရှယ်ယာ စီးပွားရေးတစ်ခု ဆုံးရှုံးသွားခြင်း၊ လူတစ်ဦး သေဆုံးသွားခြင်း၊ စသည့် စိတ်ထိခိုက်စရာ သတင်း အချက်အလက်များ ဖြစ်သည်။ ထို့အတူ လူမမာ၏ ရောဂါအခြေနေ အရပ်ရပ်အား (မလိုအပ်ဘဲ) စစ်ဆေးသည့်ပုံစံဖြင့် မမေးမြန်းအပ်ပေ။ ထိုသို့ မေးမြန်းခြင်းသည် ၎င်းကို ကုသပေးသော ဆရာဝန်သာလျှင် ဆောင်ရွက်ရမည် ဖြစ်သည်။ ဆရာဝန်အပြင် အခြားသူများ၏ မေးမြန်းခြင်းသည် မည်သည့် အကျိုးမျှ မဖြစ်ထွန်းစေပါ။ ဤနည်းအတိုင်းပင် လူမမာမေးမြန်းသူသည် မိမိ၏ ကြားဖူးနားဝဖြင့် အစားအစာတစ်ခုခု၊ ဆေးတစ်ခုခုကို အာနိသင်ရှိသည်ဟု ထင်မှတ်ကာ လူမမာအား မညွှန်ကြားအပ်ပေ။ အကြောင်းမှာ လူမမာသည် မဆင်ခြင်ဘဲ ထိုလမ်းညွှန်ချက်အတိုင်း ဆောင်ရွက်ခဲ့ပါက ဆရာဝန်၏ ကုသမှုများကို သဲထဲရေသွန်ဘိအလား ဖြစ်စေသကဲ့သို့ မိမိအတွက်လည်း ဘေးဥပါဒ်ဖြစ်စေသည့် အတွက်ကြောင့်ပင်။ ထို့ကြောင့် လူမမာ၏စိတ်ထဲတွင် ဆရာဝန်၏

ကုသပေးမှုများနှင့် ပတ်သက်ပြီး သံသယမဖြစ်ရလေအောင် လူမမာ မေးမြန်းသူသည် မိမိ မတက်ကျွမ်းသော ဆေးဝါးကုသသည့် ကဏ္ဍ များတွင် စွက်ဖက်ခြင်း မပြုအပ်ပေ။

အကယ်၍ လူမမာအား ဝမ်းနည်းဖွယ် အဖြစ်အပျက်တစ်ခုကို မဖြစ်မနေ အသိပေးရမည်ဆိုပါက စိတ်ထိခိုက်မှု မဖြစ်စေသော စကား အဖွဲ့အနွဲ့များနှင့် သွယ်ဝိုက်စွာ အသိပေးရမည်။ ပမာဆိုရသော် လူနာ၏ မိတ်ဆွေ၊ ဆွေမျိုးသားချင်း၊ အိမ်နီးနားချင်းတစ်ဦး သေဆုံးသွားသော သတင်းတစ်ခုကို" ဘယ်သူကတော့ နာမကျန်းဖြစ်ပြီး ရောဂါ အခြေ အနေဆိုးဝါးနေတယ်။ အဲ့လူ အခုဆုံးသွားပြီးလို့ ငါသတင်းရခဲ့တယ်" ဟူ၍ အသိပေးရမည်။

ထိုသို့ အသိပေးသောအခါ "အသင် ဒီနေ့ဆုံးသွားသူကို သိပါသလား (သို့) ဒီနေ့ဆုံးသွားသူသည် ဘယ်သူဘယ်ဝါဖြစ်တယ်" ဟူ၍ လူမမာကို အသိမပေးအပ်ပေ။ သို့သာမက ဆုံးပါးသွားသူ၏ အမည်ကို ဦးစွာ ဖော်ပြရပေမည်။ အကြောင်းမှာ (ဆုံးပါးသွားသူ၏အမည်ကို ဦးစွာ မဖော်ပြဘဲ) အသိပေးပါက လူနာသည် ထိုသေဆုံးသွားသူသည် မိမိ၏ ဆွေမျိုးသားချင်း၊ မိတ်ဆွေတစ်ဦး ဖြစ်ချေမည်ဟု ယူဆကာ ၎င်း၏ စိတ်ထဲတွင် တုန်လှုပ်ခြောက်ခြားဖွယ်ရာများ ပေါ်ပေါက်လာစေသော ကြောင့်ဖြစ်သည်။ ထို့ကြောင့် လူမမာအား အထက်ပါ သတင်းတစ်စုံ တစ်ရာ အသိပေးမည်ဆိုပါက စိုးထိတ်ရင်ဖိုဖွယ်ရာ အသုံးအနှုန်းများကို

မသုံးစွဲမိစေရန် အထူးဂရုပြုအပ်ပေသည်။ ထို့အတူ ထိုင်းပိုင်း၌ရှိသူ၊ ဆွေမျိုးသားချင်း၊ မိတ်ဆွေတစ်ဦးကို မီးလောင်သောအဖြစ်အပျက် ရေနစ်မြှုတ်သောအဖြစ်အပျက် စသဖြင့် ဝမ်းနည်းဖွယ် အဖြစ်အပျက်များအား ၎င်းတို့ စိတ်မထိခိုက်သည့်ပုံစံဖြင့် ပါးနပ်စွာ အသိပေးရမည်။ အချို့သူတို့သည် ခံနိုင်ရည်ချင်းမရှိသောကြောင့် ထိုသို့ ကြေကွဲစရာသတင်းများကြားသောအခါ စိတ်ဒုက္ခရောက်ခြင်း၊ မူးမေ့သတိလစ်ခြင်း၊ အကြားအာရုံနှင့် အမြင်အာရုံချို့တဲ့ခြင်း၊ စသည့် အခြင်းအရာများကြုံဆုံရပေသည်။ အသိပေးရာတွင်လည်း သင့်လျော်သော အချိန်တစ်ခုကိုရွေးချယ်ရမည်။ အစားစားနေချိန်၊ အိပ်နေချိန်၊ နာမကျန်းဖြစ်နေချိန်၊ ဒေါသထွက်နေချိန် စသည့် (မသင့်လျော်သောအချိန်များတွင် အသိမပေးအပ်ပေ။ အထက်ပါ အခြေနေ အရပ်ရပ်များတွင် မွတ်စ်လင်မ်တစ်ဦးအနေဖြင့် အကောင်းဆုံး ဆင့်မြန်းအပ်သောအချက်မှာ ဉာဏ်အမြော်အမြင်နှင့် လိမ္မာပါးနပ်မှုတို့ ဖြစ်ကြသည်။

မိသားစုဝင်တစ်ဦး သေဆုံးသွားသောကြောင့် ဝမ်းနည်းပူဆွေးသည့်မိတ်ဆွေထံသို့ အလျင်မြန်သွားရောက်၍ ဂမ်းနည်းစကား ဆိုပါလေ။ ၎င်း၏ ပူဆွေးသောကများကို ထပ်တူထပ်မျှ ခံစားပေးပါလေ။ ဤသည် အစ္စလာမ်က ပြဆိုသော မွတ်စ်လင်မ်ညီနောင် အချင်းချင်းတွင် ထားရှိရမည့် တာဝန်တစ်ရပ်ပင် ဖြစ်သည်။ အကယ်၍ သူသေအားလိုက်ပါပို့ဆောင်နိုင်ပါက ပို့ဆောင်ပါလေ။ ထိုသို့ (လိုက်ပါပို့ဆောင်ခြင်းသည်) အကျိုးစဂါးဗ်များ နောင်အာခိရသ်နှင့် ပတ်သက်ပြီး

ကြီးမားသော သင်ခန်းစာများ ရရှိစေသည်။ ထိုကြောင့် ကိုယ်တော်မြတ် ﷺ က မိန့်ဆိုခဲ့သည်မှာ မွတ်စ်လင်မ်တစ်ဦးက တစ်ဦးပေါ်၌ ထားရှိရမည့် တာဝန် (၅)ရပ်ရှိပေသည်။ ၎င်းတို့မှာ (၁)စလာမ်ပြန်ခြင်း (၂) လူမမာ မေးမြန်းခြင်း (၃) သေသူမိုင်ယသ်အား လိုက်ပါပို့ဆောင်ခြင်း၊ (၄) နှာချေသူအား အဖြေ (ဒိုအာ) ပေးခြင်း (၅) ညှော်ခံကျွေးမွေးမှုအား လက်ခံခြင်းတို့ ဖြစ်သည်။

▸ **မုိခါရီနှင့်မွတ်စ်လင်မ်**

နောက်ဟာဒီးဆ်တော် တစ်ပုဒ်၌ ကိုယ်တော်မြတ် ﷺ က မိန့်ဆိုထားသည်မှာ- "အသင်တို့ လူမမာသွားရောက် မေးမြန်းကြပါလေ။ ထို့အပြင် သေသူများအား လိုက်ပါပို့ဆောင်ကြပါလေ။ သို့မှသာလျှင် နောင်အာခိရသ်ကို သတိရစေမည်။

▸ **မွတ်စ်နဒ်အဟ်မဒ်ကျမ်း**

# မိုင်ယသ်ရှင်အားနှစ်သိမ့်ခြင်း

သေသူမိုင်ယသ်ရှင် တစ်ဦးဦးထံသို့ သွားရောက်၍ ဝမ်းနည်းစကား ဆိုသည့်အခါ သေသူမိုင်ယသ်အား (မဂ်ဖိရသ်) လွတ်ငြိမ်းချမ်းသာခွင့်ပေးရန် ဒိုအာဆုမွန်ကောင်းခြွေပေးပါလေ။ အကြောင်းမှာ ကိုယ်တော် မြတ်ﷺ သည် ဟဇရသ် အဗူစလ်မား ؓ ဆုံးပါးသွားသောအခါ ၎င်း၏ အိမ်သူအိမ်သားများအား ဝမ်းနည်းစကား ဆို၍ ဤသို့ ဆုမွန် ကောင်းများခြွေပေးတော် မူခဲ့လေသည်။ "အိုးအရှင်---အဗူစလ်မားအား လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။ လမ်းမှန်ရရှိသူများ၌ ၎င်း၏ အဆင့်အတန်းကို မြှင့်တင်ပေးတော်မူပါ။ ၎င်း၏ ကျန်ရှိမိသားစုဝင်များအား စောင့်ရှောက် ထိန်းသိမ်းပေးတော်မူပါ။ အိုးဝေနေယျ အပေါင်း အား မွေးမြူဖန်ဆင်းတော်မူသောအရှင်----- ကျွန်ုပ်တို့အားလုံးကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။ ၎င်း၏ကဗရ်အား နူးရ် (အလင်း ရောင်) များ ကွန့်မြူးစေပြီး ကျယ်ဝန်းစေတော်မူပါ။"

▸ **မွတ်စ်လင်မ်ကျမ်း**

မတည်မြဲသော လောကအကြောင်း၊ ထာဝစဉ်တည်မြဲသော နောင်အာခိရသ်အကြောင်း၊ ဒုက္ခအစားရရှိမည့် သုခအကြောင်း၊ ၎င်းဒုက္ခအား သီးခံမျိုသိပ်ခြင်းကြောင့် ဆွတ်ခူးရရှိမည့် အကျိုးစဝါးဗ်များအကြောင်း

စသဖြစ် မိုင်ယသ်ရှင်၏ ပရိဒေဝမီးများ ငြိမ်းသက်သွားစေမည့် အားပေး စကားများ ပြောဆိုရပေမည်။

ထို့ကြောင့် ဤသည်နှင့် စပ်လျဉ်းသော ကျမ်းမြတ်ကုရ်အာန်၏ အာယသ်တော်အချို့ ကိုယ်တော်မြတ် ﷺ ၏ ဩဝါဒတော်အချို့နှင့် ပညာရှင်များ၏ အကျိုးအာနိသင်များ ပြည့်မောက်နေသည့် ဆုံးမ စကားအချို့ကို အောက်တွင် ဖော်ပြပါမည်။ ၎င်းတို့မှာ--- ကျမ်းမြတ် ကုရ်အာန်၏အာယသ်တော်များ-

(၁) "သို့ရာတွင် ခန္တီတရားထားသူအပေါင်းအား ဝမ်းမြောက်ဖွယ်ရာ ကောင်းချီးမင်္ဂလာသတင်းကို (အိုးနဗီတမန်တော်) အသင်ပြောကြား ပါလေ။ ထိုသူတို့သည် မိမိတို့အပေါ်၌ ဘေးဥပါဒ်အန္တရာယ် တစ်စုံတစ်ရာ ဆိုက်ရောက်လာသောအခါ ကေန်အမှန် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ အဖို့သာဖြစ်၍ မုချကေန် ထိုအရှင်မြတ်ထံတော် သို့သာ ပြန်လည်သွားကြရမည့်သူများ ဖြစ်ကြပါသည်ဟု ဆိုလေ့ ရှိကြ ကုန်၏။ ▸ **စူရဟ်-၂ အာယသ် ၁၅၅-၁၅၆**

"ထို (ဘေးအန္တရာယ်များကို ခန္တီတရားဖြင့် သည်းခံသော)သူတို့အပေါ်၌ ယင်းသူတို့အား မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ကောင်းချီးမင်္ဂလာများနှင့် မေတ္တာကရုဏာတော် သက်ရောက်ပေမည်။ ၎င်းပြင် ထိုသူတို့သည်သာလျှင် ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်ကို ရရှိသူများဖြစ်ကြကုန်သတည်း။" ▸ **စူရဟ်-၂ အာယသ်-၁၅၇**

(၂) “သက်ရှိသတ္တဝါတိုင်းသည် မရဏာသေခြင်းတရား၏ အရသာကို မြည်းစမ်းကြရမည်။ တဖန် အသင်တို့သည် ကိယာမသ်ခေါ် (သေပြီး နောက်) ရှင်ပြန်ထရမည့်နေ့၌ မိမိတို့၏ (ကောင်းမှု၊မကောင်းမှုတို့၏) အကျိုးများကို အပြည့်အစုံပေးခြင်း ခံကြရပေမည်။ သို့ဖြစ်ပေရာ ငရဲမီး ဘေးမှ ဖယ်ရှားခြင်းခံရ၍ ဂျန္နသ်သုခဘုံသို့ ဝင်ရောက်စေခြင်းခံရသူ သာလျှင် စင်စစ်ဧကန် အောင်မြင်သောသူ ဖြစ်ပေသည်။ အမှန်သော်ကား (နောင်တမလွန်ဘဝသည်သာလျှင် အမြဲခံစားရမည့် ဘဝဖြစ်၍ ဤမျက်မှောက်လောကီဘဝသည်ကား ထင်ရောင်ထင်မှားဖြစ်စေသော ပစ္စည်းမျှသာဖြစ်ချေသည်။” ▸ **စူရဟ်-၃ အာယသ်-၁၅၈**

(၃) “ယင်းပထဝီမြေပေါ်၌ ရှိသမျှတို့သည် (မမြဲ) ပျက်စီးဆိတ်သုဉ်း အံ့သောအရာများပင် ဖြစ်ကြကုန်၏။ ▸ **စူရဟ်-၅၅ အာယသ်-၂၆**

ကိုယ်တော်မြတ် ﷺ ၏ဩဝါဒတော်များ----- ကိုယ်တော်မြတ် သည် ဒုက္ခတစ်စုံတစ်ရာ ကြုံကြိုက်ရသောအခါ အောက်ပါဒိုအာများ ရွတ်ဆို၍ ဝမ်းနည်းစကားများ ဆိုခဲ့သည်။

(၁) “အိုးအရှင်---ကျွန်ုပ်၏ဒုက္ခအစား အကျိုးစဝါးဗ်များနှင့် ကောင်းခြင်း များအား ချီးမြှင့်ပေးသနားတော်မူပါ။” ▸ **မွတ်စ်လင်မ်ကျမ်း**

(၂) ချီးမြှင့်ခြင်းနှင့် ရုတ်သိမ်းခြင်းသည် အရှင်မြတ်၏ လက်ဝယ်၌သာ တည်ရှိတော်မူ၍ ဖန်ဆင်းခံများ၏ သတ်မှတ်ချိန် (ပျက်စီးဆိတ်သုဉ်းချိန်) သည်လည်း ထိုအရှင်မြတ်ထံတော်ပါးတွင် မှတ်တမ်းတင်အပ်ထားပေသည်။ ▶ **ဗိုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း**

(၃) ထို့အတူ ကိုယ်တော်မြတ်ﷺ သည်တမလွန်သို့ ပြောင်းကြွသွားသောမိမိသားတော် အိဗ်ရာဟီးမ်အတွက် ဤသို့ ဝမ်းနည်းစကားများ ဆိုခဲ့လေသည်။ မျက်လုံးအိမ်က (ဝမ်းနည်း) မျက်ရည်တို့ကို သွန်းဖြိုးနေပါသည်။ သည်းပွတ်နှလုံးတို့ ကွဲအက်နေပါသည်။ ကျွန်ုပ်တို့သည် အရှင်မြတ်နှစ်ခြိုက်သော စကားရပ်တို့ကိုသာ ဆိုအပ်ပါသည်။ အိုးချစ်သားအိဗ်ရာဟီးမ်--- ဖခမည်းတော်တို့သည် အသင်နှင့် ခွဲခွာရခြင်းကြောင့်အသဲကွဲလုနီးပါး ခံစားရပါသည်။

▶ **ဗိုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း**

**ရှေးသူတော်စင်ကြီးတို့၏ ဆုံးမစကားများ --------**

(၁) ဟာဇရသ်အုမရ်သခင်သည် “ယနေ့မည်သူ သေဆုံးသွားပါသည်”ဟု လူများ၏ ပြောဆိုသံ ကြားလေတိုင်း “အုမရ်သေဆုံးသွားပြီ” ဟု လူများက ပြောဆိုမည့်နေ့သည်လည်း မုချဆိုက်ရောက်လာပေမည် ဟု ရေရွတ်လေ့ရှိခဲ့သည်။

(၂) ဖြောင့်မတ်မှန်ကန်သော ခလီဖွာကြီး ဟာဇရသ်အိုမရ်ဗင်န်အဗ္ဗဒွလ် အဇီး‌ဇ်သခင်က မိန့်ဆိုခဲ့သည်မှာ--အာဒမ်၏ သားမြေးမြစ်မှန်သမျှတို့ သည် မလွဲဧကန် သေခြင်းတရားနှင့် ရင်ဆိုင်ရမည်သာဖြစ်သည်။

(၃) သာဗေအီကြီး ဟာဇရသ်ဟာစန်ဗဆွ်ရီကမိန့်ဆိုခဲ့သည်မှာ-အိုးလူသား- အသင်၏ (ဘဝသက်တမ်း)သည် လောကီ၏ နေ့ရက်များသာ ဖြစ်သည်။ ထိုလောကီ၏ နေ့ရက်များ ကုန်ဆုံးသွားသကဲ့သို့ အသင်၏ ဘဝသက်တမ်း သည်လည်း ကုန်ဆုံးသွားပေမည်။

(၄) ထို့အတူ သခင်ကြီးက မိန့်ဆိုခဲ့သည်မှာ အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န်များနားနေဖို့ အေးရိပ်သာအဖြစ် သုခဘုံနန်းကလွဲ၍ တခြား မည်သည့်အရာကိုမျှ မစီမံထားပေ။

(၅) ဟာဇရသ် မာလိက်ဗင်န်ဒီနားရ် သခင်က မိန့်ဆိုခဲ့သည်မှာ----- ကိယာမသ်နေ့သည် အကြောက်တရားထားသူတို့၏ မင်္ဂလာနေ့မြတ် ကြီး တစ်နေ့ဖြစ်သည်။

အထက်ဖော်ပြပါ မိုင်ယသ်ရှင်ကို နှစ်သိမ့်စကား ပြောဆိုရာတွင် သုံး စွဲအပ်သော ကုရ်အာန်ကျမ်းမြတ်၏ အာယသ်တော်များ၊ ဟဒီးဆ်တော် များ၊ ပညာရှင်များ၏ အဆိုအမိန့်များအား တင်ပြရခြင်းမှာ ကျွန်တော် သည် တစ်ချို့သူများကို တွေ့ရှိရသော ကြောင့်ပင်။ ၎င်းတို့သည် မိုင်ယသ်ရှင်အား ပို၍ ပူဆွေးသောက ဖြစ်စေမည့် စကားရပ်များကို ပြောဆိုနေကြသည်။ ဤသည် အချိန်၊ နေရာ အစွလာမ့် သွန်သင်ဆုံးမမှု များနှင့် ဆန့်ကျင်ပေသည်။

# ထိုင်ဝိုင်း၏ကျင့်ဝတ်စည်းကမ်းများ

ထိုင်ဝိုင်း၏ ရိုသေသမှုတစ်ခုမှာ-ဧည့်သည် (သို့မဟုတ်) လူတစ်ဦးနှင့်တိုးတိုးစွာ စကားပြောဆိုရမည်။ လိုအပ်သည်ထက် ကျယ်လောင်စွာမပြောဆိုအပ်ပေ။ ထိုသို့ ကျယ်လောင်စွာ စကား ပြောဆိုခြင်းသည် တစ်ဖက်နားထောင်သူအား အရိုအသေကင်းမဲ့ရာရောက်သကဲ့သို့ စကား ပြောဆိုရာ၌ ဆင်မြန်းအပ်သော ကျင့်ဝတ်များကိုလည်း ထိပါးရာ ရောက်ပေသည်။

ထို့ကြောင့် မိမိထက် အသက်ကြီးသူ၊ အသက်ငယ်သူ၊ မိမိသိသောသူ မသိသောသူ၊ သူငယ်ချင်း စသည့် သူများနှင့် ရိုသေစွာ စကား ပြောဆိုရပေမည်။ မိဘနှစ်ပါး၊ ၎င်းတို့နှင့် အဆင့်အတန်း တူညီသူများနှင့် လေးစားကြည်ညိုအပ်သူတို့အား ပို၍ပင် ရိုသေစွာ ပြောဆို ဆက်ဆံအပ်ပေသည်။ ဤသည်နှင့်စပ်လျဉ်း၍ ကျမ်းတော်မြတ်ကုရ်အာန်၊ ဟဒီးဆ်တော်များနှင့် ပညာရှင်များ၏ အဆိုအမိန့်များ လာရှိထားပေသည်။ ၎င်းတို့မှာ--- (၁) ကျမ်းမြတ်ကုရ်အာန်၌ လာရှိသော ဟဇရသ် လွှက်မားန် သခင်က မိမိသားကို မိန့်ဆိုထားသည့် ဆုံးမစကား (အိုးချစ်သား) အသင်သည် လူများနှင့် စကားပြောဆိုရာတွင် တိုးတိုးစွာ ပြောဆိုပါလေ။ အကြောင်းမှာ- ကျယ်လောင်စွာ စကားပြောဆိုခြင်းသည် အကျည်းတန် စက်ဆုပ်ဖွယ်ရာ ဖြစ်သောကြောင့်ပင်။

(၂) အိုး-မုအ်မင်န် သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့၏ အသံများကို နဗီတမန်တော်၏ အသံထက် မကျယ်မြင့်စေကြကုန်လင့်။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး ဟစ်အော်ကျယ်လောင်စွာ ပြောဆိုသကဲ့သို့ ထို နဗီတမန်တော်နှင့် စကားပြောဆိုခြင်းကို မပြုကြကုန်လင့်။ (ထိုသို့ပြုကြလျှင်) အသင်တို့မသိကြဘဲလျက် အသင်တို့၏ အပြုအမူများသည် အချည်းအနှီး ဖြစ်သွားပေမည်။ ▸ **စူရဟ်-၄၉ အာယသ်-၂**

(၃) ကေန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်၏ ရှေ့ဝယ် မိမိတို့၏ အသံများကို နှိမ့်ချကြကုန်သော သူတို့သည် အကြင်သူများပင်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများကို ပြစ်မှုများမှ ကြဉ်ရှောင်ခြင်းငှာ ရွေးချယ်တော်မူခဲ့၏။ ထိုသူတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း ရှိချေသတည်း။

▸ **စူရဟ်-၄၉ အာယသ်-၃**

ဟာဇရသ် အဗ်ဗွလ္လာဟ်ဗင်န်ဇိုဗိုင်းရ်က မိန့်ဆိုခဲ့သည်။ ဟာဇရသ်အုမရ်သည် အထက်ပါ အာယသ်တော် (နှစ်ခု) ကျရောက်လာပြီးသောအခါ ကိုယ်တော်မြတ်နှင့် စကား ပြောဆိုလေတိုင်း မရှင်းမလင်းဖြစ်သောကြောင့် ပြန်လည်မေးမြန်းရသည်အထိ တိုးတိုးစွာ ပြောဆိုခဲ့သည်။

(၄) အေမာမ်ဇဟာဘီသခင်က သာဗေအီ ဖွေကဟ်ပညာရှင်ကြီး တစ်ပါးနှင့် ပတ်သက်ပြီး အကြောင်းအရာ တစ်ခုကို တင်ပြထားသည်မှာ-

ဘက္ကားရ်ဗင်န်မိုဟမ္မဒ်သည် အဗ်ဒွလ္လာဟ်ဗင်န်အောင်းန်ထံမှ ဤသို့ ဆင့်ပြန်ခဲ့သည်။ အေမာမ်အိဗ်နေ့စီရီးန်သခင်ကြီးသည် မိခင်၏ ရှေ့မှောက်ဝယ် စကားပြောဆိုသောအခါ သူစိမ်းတစ်ဦးက နာမကျန်း ဖြစ်သောကြောင့် ဟု ထင်မှတ်ရသည်အထိ တိုးတိုးစွာ ပြောဆိုလေ့ ရှိသည်။ ▸ **သာရီးခွလ်အစ္စလာမ်- အတွဲ-၄/ စာမျက်နှာ-၁၉၇**

(၅) ထို့အတူ အေမာမ်ဇဟာဘီသည် အေမာမ်အိဗ်နေ့စီရီးန်၏ တပည့်ကျော် အဗ်ဒွလ္လာဟ်ဗင်န်အောင်းန်ဗဆွရီသခင်၏ အကြောင်း အား တင်ပြထားသည်မှာ- သခင်ကြီးသည် မိခင်၏ခေါ်ဆိုမှုကို ကျယ်လောင်စွာ အဖြေပေးမိသောကြောင့် စိုးထိတ်ခဲ့ပြီး ကျွန်နှစ် ယောက်အား သူကောင်း ပြုခဲ့လေသည်။

▸ **သာရီးခွလ်အစ္စလာမ်- အတွဲ-၆/စာမျက်နှာ-၂၁၃**

(၆) ကေရာအသ်ပညာရှင်ကြီး ဟဇရသ်အာစွင်းမ်ဗင်န်ဘဟ်ဒလား သခင်က မိန့်ဆိုခဲ့သည်။ ကျွန်တော်သည် အုမရ်ဗင်န်အဗ်ဒွလ်အဇီးဇ် ထံပါးသို့ အခစားဝင်ခဲ့သည်။ လူတစ်ဦးသည် သခင့်ရှေ့တွင် ကျယ်လောင် စွာ စကားပြောဆိုနေခဲ့သည်။ သခင်ကြီးသည် ၎င်းသူအား ဤသို့ မိန့်ဆိုခဲ့သည်။ "အသင်ဆက်လက်ပြီး စကားမပြောဘဲ တိတ်ဆိတ်စွာနေပါ။" လူတစ်ဦးသည် ဘေးကထိုင်နေသူ မိတ်ဆွေ ကြားရုံမျှ အသံဖြင့် စကားပြောဆိုရပေမည်။

▸ **သဟ်ကီးပ်သာရီးခ်ဒမရှ်က်- အတွဲ-၇/စာမျက်နှာ-၁၂၃**

ထိုင်ဝိုင်း၏ ရိုသေသမှု တစ်ခုမှာ- ထိုင်ဝိုင်း၌ ထိုင်နေသူတစ်ဦးက အကြောင်းအရာ တစ်ခုအား မသိရသေးဘူးဟု ထင်မှတ်ကာ မိမိကို ပြောပြမည်ဆိုပါက ၎င်းအား မိမိသိထားပါကြောင်း ပြောဆို၍ အရှက် သိက္ခာကျဆင်းအောင် မပြုလုပ်ပါနှင့်။ သို့သာမက မိမိသည် ၎င်း၏ စကားကို စလယ်ဆုံး အာရုံအပြည့်ဖြင့် နားထောင်ပေးပါ။

ဟဇရသ် အသ္ဝာအ်ဗင်န်အဘီရဘားဟ် သခင်ကြီးက မိန့်ဆိုခဲ့ သည်မှာ-လူငယ်တစ်ဦးသည် ကျွန်တော့်အား အကြောင်းအရာတစ်ခု ပြောပြခဲ့ရာ ကျွန်တော်သည် တစ်ခါမျှ မကြားဖူးသကဲ့သို့ ထိုအကြောင်း အရာကို နားထောင်ခဲ့လေသည်။ စင်စစ် ကျွန်တော်သည် ၎င်း(လူငယ်) မမွေးဖွား ခင်ကတည်းက ထိုအကြောင်းအရာကို ကြားသိခဲ့ပြီးဖြစ်သည်။

ဟဇရသ် ခါလိစ်ဒ်ဗင်န်ဆွဖ်ဝါးန်သိုင်မီက မိန့်ဆိုခဲ့သည်မှာ-လူ တစ်ဦးသည် မိမိသိရှိပြီးသား အကြောင်းအရာ၊ အဖြစ်အပျက်တစ်ခုကို ပြောဆိုနေခဲ့ပါလျှင် အနီးအနားတွင် ရှိသူတို့က မိမိအား ထိုအကြောင်း အရာကို သိရှိပြီးသည်ဟု ထင်မှတ်ကြရန် ဝင်ရောက်ပြောဆိုမှု မပြုပါ လေနှင့်။ ထိုသို့ ပြောဆိုခြင်းသည် အရိုအသေကင်းမဲ့ရာ ရောက်ပေမည်။

အေမာမ် အဗ်ဒွလ္လာဟ်ဗင်န်ဝဟာဗ်အလ်ကိုရရှီက မိန့်ဆိုခဲ့သည် မှာ- ကျွန်တော်သည် လူတစ်ဦးထံမှ ၎င်းသူ မမွေးခင်အလျှင်က ကြားသိ ခဲ့ရသော အကြောင်းအရာ တစ်ခုကို ဆိတ်ငြိမ်စွာ (မိမိကမကြားသိဖူး သကဲ့သို့) ကြားနာခဲ့လေသည်။

ဟဇရသ်အိဗ်ရာဟီးမ်က အမိန့်ရှိခဲ့သည်။ ပညာရှင် သုခမိန်တစ်ပါး သည် မိမိ၏သားကို ဤသို့ ဆုံးမခဲ့လေသည်။ “အသင်သည် ကောင်းမွန်

စွာ နားထောင်တတ်မှုနှင့် ပြောဆိုတတ်မှုတို့ကို သင်ယူပါ။ ကောင်းမွန်စွာ နားထောင်တက်မှုဟူသည် လူတစ်ဦးက အကြောင်းအရာ တစ်ခုကို အသင့်အား ပြောပြခဲ့ပါလျှင် ၎င်းဘက်သို့ မျက်နှာမူ၍ အာရုံစူးစိုက်စွာ နားထောင်ခြင်းဖြစ်သည်။ ထို့အတူ မိမိသိပြီးသား အကြောင်းအရာ တစ်ခုကို ပြောဆိုခဲ့လျှင် ဂင်ရောက်ပြောဆိုမှု မပြုခြင်းဖြစ်သည်။

ထိုင်ဝိုင်း၏ ရိုသေသမှုတစ်ခုမှာ- တစ်ဖက်လူ ပြောဆိုသော စကား ကိုနားမလည်ပါက ၎င်းသူ၏ စကားအား ပြီးဆုံးသည်အထိ နားထောင် ပေးပါလေ။ ထို့နောက် မိမိ နားမလည်သော အရာကို ရိုသေသိမ်မွေ့စွာ မေးမြန်းပါလေ။ ၎င်းသူပြောဆိုနေချိန် ကြားဝင်မေးမြန်းခြင်း၊ ပြောဆိုခြင်းတို့ မပြုအပ်ပေ။ ထိုသို့ ပြုမူခြင်းသည် အရိုအသေကင်းမဲ့ခြင်း ဖြစ်သကဲ့သို့ တစ်ဖက်လူများကို စိတ်လက်မကြည်မသာလည်း ဖြစ်စေသည်။

သို့သော် အသိပညာများနှီးနှောဖလှယ်သည့် ထိုင်ဝိုင်းဖြစ်ပါမူ မိမိ နားမလည်သော အကြောင်း တစ်စုံတစ်ရာကို ဆရာအား သိမ့်မွေ့ ရိုသေစွာ မေးမြန်းခွင့်ရှိပေသည်။ ထို့အတူ မိမိ မရှင်းမလင်းဖြစ်နေသော အကြောင်းတစ်စုံတစ်ရာကို ရိုသေစွာ ဆရာနှင့် ဆွေးနွေးဖလှယ်မှုများ ပြုရပေမည်။ ခလီဖွာကြီးမအ်မူးန်က မိန့်ဆိုသည်မှာ “ ဆွေးနွေးဖလှယ်ခြင်းဖြင့် ဆည်းပူးသင်ယူသော အသိပညာသည် ဆွေးနွေးဖလှယ်ခြင်း မပြုဘဲ သင်ယူသော အသိပညာထက် ပိုမိုခိုင်မာမှုရှိပေသည်။ သမိုင်း၊ စာပေအနုပညာရှင်ကြီးများအနက် တစ်ဦးအပါအဝင်ဖြစ်သော ဟဇရသ်

ဟိုင်ဆမ်ဗင်န်အဒိယ်က မိန့်ဆိုသည်မှာ-ပညာရှင်သုခမိန်တို့သည် ဤသို့ မိန့်မြွက်ထားပေသည်။ "မိမိစကားကိုအသာစီးပေးချင်စိတ်ဖြင့် တစ်ခြားသူပြောဆိုနေသော စကားအား ကြားဖြတ် ဝင်ရောက် ပြောဆိုခြင်းသည် မကောင်းသော စာရိတ္တဖြစ်သည်။"

ထိုင်ဝိုင်း၏ ရှိသေသမှုတစ်ခုမှာ- မိမိကို မမေးသော ကိစ္စတစ်ခုအား မဖြေကြားပါနှင့်။ မေးမြန်းသော ကိစ္စကိုသာ ဖြေကြားပါလေ။ ဤသည် မိမိ၏သိက္ခာကို ထိန်းသိမ်းခြင်း ဖြစ်သကဲ့သို့ မိမိ၏ အဆင့်အတန်းကို လည်းမြင့်မားစေခြင်း ဖြစ်သည်။

သာဗေအိကြီး မိုဂျာဟိဒ်ဗင်န်ဂျဗရ်က မိန့်ဆိုသည်မှာ-ပညာရှင်သုခမိန်ကြီး လွက်မားန်သခင်က မိမိ၏သားကို ဤသို့ ဆုံးမထားပေသည်။ "အသင်သည် မိမိကို မမေးမြန်းသော အရာတစ်ခုအား သုံးပန့်ပစ္စည်းတစ်ခု၊ လက်ဆောင်တစ်ခုကို ပိုင်ဆိုင်ခွင့်ရသည့်နယ် မဖြေကြားပါနှင့်။ ထိုသို့ဖြေကြားခြင်းသည် တစ်ဖက်တွင် အမေး၊ အဖြေပြုလုပ်နေသူနှစ်ဦးကို စိတ်ဒုက္ခရောက်စေသည်။ ထို့အတူ ပညာမဲ့တို့အား မိမိ၏ အရိုအသေ နည်းပါးမှုနှင့် အိန္ဒြေပျက်ပြားမှုတို့ကို ထုတ်ဖော်ပြောပြရာရောက်မည်။"

ဟာမ္မလီဖွေကဟ် ပညာရှင်ကြီး ရှိုင်းခ်အိဗ်နို့ဘာသားက မိန့်ဆိုသည်မှာ-ကျွန်တော်သည် အေမာမ်အဗူအမရ်ဇာဟေဒီ၏ ထံပါးတွင် ရှိနေစဉ် (လူတစ်ဦးက) သခင်ကြီးကို မတ်စ်အလာ-ပညတ်ချက်-တစ်ခုနှင့် ပတ်သက်ပြီး မေးမြန်းခဲ့လေသည်။ ကျွန်တော်သည် လျင်မြန်စွာ မေး

မြန်းသူကို အဖြေပေးလိုက်သည်။ ထိုအခါ သခင်ကြီးသည် ကျွန်တော့်ဘက်သို့ လှည့်တော်မူ၍ "အသင်သည် မိမိနှင့်မသက်ဆိုင်သော လုပ်ငန်းတွင် ဝင်ရောက်စွက်ဖက်သူဖြစ်သည်" ဟု အရှက်ရစေမည့် စကား ဖြင့် ဆူပူခဲ့လေသည်။

## မွတ်စ်လင်မ်အမေအစ်မအပေါင်းတို့ အတွက်ရှေ့စကား

မွတ်စ်လင်မ်အမေ၊ အမအပေါင်းအား (အထူးတလည်) မှာကြားလိုသည်မှာ- မိမိတို့အနေဖြင့် အိမ်သူ၊ အိမ်သားများ၊ အသိမိတ်ဆွေများထံသို့ သွားရောက်လည်ပတ်ကြမည်ဆိုလျှင် လျော်ကန်သင့်မြတ်သော နေ့ရက်အချိန်ကို ရွေးချယ်မှုပြုပါ။ အကြောင်းမှာ အချို့အချိန်များတွင် တွေ့ဆုံဖို့ သင့်လျော်သကဲ့သို့ အချို့အချိန်များတွင် မိသားစု၊ သူငယ်ချင်းတွေနှင့်ပါ တွေ့ဆုံဖို့ မသင့်လျော်သည်လည်း ရှိသောကြောင့်ပင်။ ထိုသို့ တွေ့ဆုံရာတွင် ၎င်းတို့အတွက် ဝန်ထုတ်ဝန်ပိုး၊ ဒုက္ခ တစ်စုံတစ်ရာ မဖြစ်ဘဲ ၎င်းတို့အတွက် လွယ်ကူမှုများ၊ သက်သာချောင်ချိမှုများကို ဖန်တီးပေးရပေမည်။ ဆွေမျိုးတော်စပ်မှု၊ ခင်မင်ရင်းနှီးမှု တို့ကြောင့် လာရောက် တွေ့ဆုံကြသည် ဖြစ်ပေရာ တက်နိုင်သမျှ အချိန်တို တွင်း၌သာ တွေ့ဆုံမှုပြုရပေမည်။ (မလိုအပ်ဘဲ) အချိန်ကြာမြင့်စွာ ငြီးငွေ့ဖွယ်ရာ ထွေရာလေးပါး စကားစမြည် ပြောဆိုမှုများ မပြုပါလေနှင့်။

အကြောင်းမှာ သာဗေအဲကြီး မိုဟမ္မဒ်ဗင်န်ဇိုဟ်ရီက ဤသို့ မိန့်ဆိုထားသည့် အတွက်ကြောင့်ပင် "ကြာရှည်သော ထိုင်ဝိုင်းတွင် ရှိင်သွာန်၏ဝေစု တည်ရှိပေသည်။" ထို့အတူ အချီးအနှီးစကားများ ပြောဆိုခြင်း အတင်းပြောဆိုခြင်း၊ ဂုန်းချောဂုန်းတိုက် လုပ်ခြင်းတို့မှ အထူးရှောင်ကြဉ်ကြ၍ အကျိုးရှိသော စကားများကိုသာ ပြောဆိုကြရပေမည်။ အကြောင်းမှာ အသိတရားရှိသော မွတ်စ်လင်မ် အမျိုးသမီး တစ်ဦးအနေဖြင့် အကျိုးမဲ့စကားများအတွက် အချိန်မပေးသင့်သောကြောင့်ပင်။

လူများအိပ်စပ်နေသည့် နေရာသို့ အဝင်၊ အထွက် ပြုလုပ်မည်ဆိုပါက အော်ဟစ်ဆူညံမှုများမပြုဘဲ နူးညံ့သိမ်မွေ့စွာ အဝင်၊ အထွက် ပြုရပေမည်။ ထို့ကြောင့် ကိုယ်တော်မြတ် ﷺ က ဤသို့ မိန့်ဆိုတော်မူခဲ့သည်။ နူးညံ့သိမ်မွေ့မှု မရှိသူသည် ကောင်းခြင်းတရားများအား လက်လွှတ်ဆုံးရှုံးရသူပင်ဖြစ်သည်။" ဆွဟာဗာကြီး ဟဇရသ် မိက်ဒါးဒ်သခင် မိန့်ဆိုခဲ့သည်မှာ ကျွန်တော်တို့သည် ညအခါတိုင်း အိပ်နေသူမနိုးစေဘဲ နိုးနေသူ ကြားရုံမျှလောက် စလာမ်ပေး၍ ကိုယ်တော်မြတ် ထံတော်ပါးသို့ သောက်စရာ နို့ကို တင်ဆက်လေ့ ရှိခဲ့ကြသည်။

**▸ မွတ်စ်လင်မ်ကျမ်းနှင့်သိရ်မေဇီကျမ်း**

ကိုယ်တော်မြတ် ﷺ သည်လည်း ညအခါ၌ထတော်မူ၍ သဟာဂျုဒ် ဖတ်သည့်အခါ အိပ်နေသူ မနိုးစေဘဲ၊ နိုးနေသူအား သာယာကြည်နူးမှုများ ပေးစွမ်းသော သံချိုအေးဖြင့် ကေရာအသ် ဖတ်ရွတ်ခဲ့သည်။

# လက်ထက်ညှော်ခံပွဲ၌ကျင့်ရန်များနှင့် ကြဥ်ရန်များ

မိမိအား နေကာဟ်ညှော်ခံပွဲသို့ ဖိတ်ကြားခဲ့ပါလျှင် သွားရောက် ပါဝင်ပါလေ။ ရှရီအသ် တရားတော်က ပိတ်ပင်တားမြစ် ထားသော ကိစ္စရပ်များ မရှိပါက ထိုသို့ သွားရောက်ပါဝင်ခြင်းသည် မွန်မြတ်သည့် လုပ်ရပ်တစ်ခု ဖြစ်သည်။ အကြောင်းမှာ ရှရီအသ် တရားတော်သည် လက်ထပ် ထိမ်းမြားခြင်းကို အေဗာဒသ်၊ အမိန့်နာခံမှုအဖြစ် သတ်မှတ် ထားသောကြောင့် ဖြစ်သည်။ သို့ပါ၍ ဗလီ ဝတ်ကျောင်းတော်၌ လက်ထပ်ပွဲ ကျင်းပခြင်းသည် နှစ်လိုဖွယ်ကောင်းသော လုပ်ရပ် ဖြစ်သည်ဟု ဖွေကာဟ် ပညာရှင်များက အတိအလင်း မိန့်မြွတ်ထားပေ သည်။

ထို့အတူ ဒီးန်သာသနာ၏ အစိတ်အပိုင်း တစ်ဝက်ကို ပိုင်ဆိုင် ခွင့်ရသော ဇနီးမောင်နှံနှစ်ဦး၏ မွန်မြတ်သည့် လုပ်ရပ်တွင်ပါဝင်ခြင်း ဖြစ်သကဲ့သို့ မွန်မြတ်သော သူငယ်ချင်းများနှင့် ဆွေမျိုးသားချင်းများက ၎င်းတို့နှစ်ဦးအဖို့ ကောင်းချီးမင်္ဂလာများ၊ အောင်မြင်မှုများ၏ ဆုမွန် ကောင်းများ ချွေပေးကြ၍ ဂုဏ်ပြုစေခြင်းလည်းဖြစ်သည်။ ဤအခြင်း

အရာတို့သည် အစ္စလာမ်ကလမ်းညွှန်ထားသော မွစ်တ်လင်မ်တစ်ဦးက တစ်ဦးအပေါ် ထားရှိရမည့် ဝတ္တရားများ ဖြစ်ပေသည်။

နေကာဟ်ညှေ့ခံပွဲသို့ ဖိတ်ကြားခံရပါလျှင် မိမိသည် ကိုယ်တော်မြတ် ﷺ ကပါဝင်ဖို့ မိန့်မြွက်ထားသော ရှရီအသ် တရားတော်ကလည်း ခွင့်ပြုထားသည့် ပျော်ပွဲရွှင်ပွဲ၊ ကောင်းချီး မင်္ဂလာအပေါင်းနှင့် အတိပြီးသော အစီအစဉ်တစ်ခု ဖြစ်သည်ဟု ရည်သန်လျှက် ပါဝင်ရပေမည်။ ထို့အတူ မိမိကိုယ်ကို ကောင်းမွန်သေသပ်စွာ ဆင်မြန်း၍ အထက်ဖော်ပြပါ အချင်းအရာများကို အထူးဂရုပြုလျှက် ထိုနေကာဟ်ပွဲသို့ တတ်ရောက်ရပေမည်။

အကြောင်းမှာ ဆွဟာဗာ သာဝကကြီးများသည် အလည်အပတ် သွားရောက်ကြသည့်အခါ လှပသေသပ်စွာ ဆင်မြန်းလေ့ ရှိကြသော ကြောင့်ပင်။ ဤသို့ပင် မိမိသည် ထိုနေကာဟ်ပွဲ၌ ဝမ်းမြောက်ပျော်ရွှင် ဖွယ်စကားကို ပြောဆိုရပေမည်။ အနားတွင် ရှိနေကြ သူတို့အား စိတ်လက်မကြည်မသာဖြစ်စေပြီး မကြားပံ့သောစကားများ မပြောဆို အပ်ပေ။ သို့မှသာလျှင် (အချိန်၊ နေရာနှင့် ကိုက်ညီသော စကားအား ပြောဆိုပြီး) လိမ္မာပါးနပ်သော မုအ်မင်န်တစ်ဦး ပီသပေမည်။

ဇနီးမောင်နှံနှစ်ဦးအား ကိုယ်တော်မြတ် ﷺ က ဆုမွန်ကောင်း ပြုပေးခဲ့သော ဒိုအာနှင့် ဆုမွန်သြဘာများ ပြုပေးရပေမည်။ (بَارَكَ اللهُ لَكَ،وَبَارَكَ عَلَيْكُمَا،وَجَمَعَ بَيْنَكُمَا فِيْ خَيْرٍ "အလ္လာဟ်အရှင်မြတ် အသင်တို့

နှစ်ဦးအား ကောင်းချီးမင်္ဂလာများ ချီးမြှင့်တော်မူပြီး ၎င်းကောင်းချီး မင်္ဂလာများဖြင့် ပေါင်းဖက်ပေးတော် မူပါစေသား ဟူ၍ဖြစ်သည်။

▶ **အဗူဒါဝူးဒ်၊ သိရ်မေဇီ၊ အိဗ်နို့မာဂျာ၊ဟာကင်မ်ကျမ်း**

သို့ပါ၍ ကိုယ်တော်မြတ် ﷺ သင်ကြားပေးခဲ့သော အထက်ပါ ဒိုအာမြတ်ကို လက်ဆုတ်လက်ကိုင်ပြုပြီး ကိုယ်တော်မြတ် ﷺ တားမြစ်ထားသောလူများက ဩဘာပေးနေကြသည့် ဂျာဟေလီယသ် (အမိုက်ခေတ်) ၏ ဩဘာမျိုးမှ ရှောင်ကြဉ်အပ်ပေသည်။ ၎င်းမှာ (بِالرَّفَاءِوَالْبَنِيْنَ) “အေးချမ်းသာယာမှုအပေါင်းနှင့် သားသမီး အမြောက်အများအား ပိုင်ဆိုင်နိုင်ပါစေသား” ဟူ၍ဖြစ်သည်။

(بَارَكَ اللهُ لَكُمْ، وَبَارَكَ عَلَيْكُمْ) ဟူသော ဒိုအာသည်လည်း ကိုယ်တော်မြတ် ﷺ အမြဲ တောင်းပေးခဲ့သော ဆုမွန်ကောင်းတစ်ခုဖြစ်သည်။

▶ **နာစာအီ၊ အိဗ်နို့မာဂျာဟ်**

ဟာဇရသ်အာအေရှာဟ် သခင်မကြီးက မိန့်တော်မူခဲ့သည်မှာ ကိုယ်တော်မြတ် ﷺ နှင့် ကျွန်မတို့ လက်ထပ်ထိမ်းမြားသောအခါ မိခင်ကြီးသည် ကျွန်မထံသို့ ရောက်လာခဲ့သည်။ ပြီးနောက် မိခင်ကြီးသည်

ကျွန်မကို အိမ်ထဲသို့ ခေါ်ဆောင်လာခဲ့သည်။ ကျွန်မအား ဤသို့ ကောင်းချီးဩဘာများ ပြုပေးကြလေသည်။ "အသင်မအပေါ်သို့ ကံကောင်းခြင်းများနှင့် ကောင်းချီးမင်္ဂလာအပေါင်း ခသြောင်းပါစေသား။"

▸ **ဗိုခါရီကျမ်း**

ရှရီအသ်တရားတော်က အမျိုးသမီးများအား နေကာဟ်ပွဲတွင် အဖော်အချွတ်နှင့် ညစ်းညမ်းသည့် အကြောင်းအရာများ မပါဝင်သော ကောင်းမွန်ထူးမြတ်သည့် ကဗျာလင်္ကာများ သီဆိုခြင်းကို ခွင့်ပြုထားပါသည်။၎င်းသူမများအနေဖြင့်မင်္ဂလာအပေါင်းခသြောင်းသော နေကာဟ်ပွဲနှင့် ပတ်သတ်ပြီး ဝမ်းမြောက်ဝမ်းသာ စကားများ ပြောဆို ကြခြင်းကိုလည်း ရှရီအသ်က ခွင့်ပြုထားပါသည်။

ထို့ကြောင့် အမျိုးသမီးများအနေဖြင့် သန့်စင်မွန်မြတ်သည့် အကြောင်းအရာများ ပါဝင်သော ကဗျာလင်္ကာများကို သီဆိုခွင့်ရှိပေသည်။ သို့သော် အချစ်အကြောင်း၊ ညစ်ညမ်းသော အကြောင်းအရာများ ပါဝင်သော ကဗျာလင်္ကာများ သီဆိုခြင်း (နားထောင်ခြင်း) တို့သည် ရှရီအသ်က အတိအလင်း တားမြစ်ထားသော ကိစ္စရပ်များ ဖြစ်ပေသည်။

(လွယ်ကူရိုရှင်းစွာ တင်ပြအပ်သည်မှာ- ယနေ့ ကျွန်ုပ်တို့ပတ်ဝန်းကျင်၌ ကျင်းပကြသော နေကာဟ်၊ မင်္ဂလာပွဲများတွင် လူအများသည် သီချင်းများ သီဆိုနားထောင်ကြ၍အတီးအမှုတ်များတီးခတ်ကြသည်။ဤသည်

ရှရီအသ်က တားမြစ်ပိတ်ပင်ထားသော မကောင်းသော ကဗျာလင်္ကာများပင်ဖြစ်သည်။သို့သော် ထိုပွဲများတွင် ကဆီဒါများ ကေရဒအသ်များ သီဆိုနားထောင်ခြင်းသည် ရှရီအသ်က ခွင့်ပြုထားသော ကောင်းမွန်ထူးမြတ်သော ကဗျာလင်္ကာများပင် ဖြစ်သည်။) ▶ **ပြန်ဆိုသူ**

ဤသည် အနည်းငယ်သော အစ္စလာမ်ကျင့်ဝတ် စည်းကမ်းများသာဖြစ်သည်။ ဘိုးဘွားဘီဘင်များ ဖြစ်ကြသော ဆွဟာဗာကြီးများနှင့် သာဗေအီသူတော်စင်ကြီးများသည် ထိုကျင့်ဝတ်စည်းကမ်းများနှင့် အညီ ဘဝကို တည်ဆောက်ခဲ့ကြပေသည်။ ကျွန်ုပ်အနေဖြင့် လွယ်ကူစွာ ကျင့်သုံးလိုက်နာရန် အလို့ငှာ ရှင်းလင်းပြတ်သားသော နည်းလမ်းဖြင့် ရေးသား တင်ဆက်ခဲ့ပါသည်။ လက်ဦးမဆွ မိမိသည် ထို စည်းကမ်းကျင့်ဝတ်များကို လိုက်နာကျင့်သုံးပြီး မိမိအိမ်သူအိမ်သားများအားလည်း ထိုစည်းကမ်းကျင့်ဝတ်များနှင့်အညီ ကျင့်ဆောင်စေရမည်။ ထို့အတူ မိမိမိတ်ဆွေများထံသို့ ထိုစည်းကမ်းကျင့်ဝတ်များအား အပတ်တကုတ်ကြိုးစား၍ ကမ်းလင့်ပေးရမည်။ အကြောင်းမှာ ထိုကျင့်ဝတ်စည်းကမ်းများကို မိမိအတွင်းဝယ် ခြယ်မှုန်းပြီး မိတ်ဆွေများနှင့် အိမ်သူအိမ်သားများအတွင်းသို့ ကူးညှိပေးခြင်းသည် အလွန်လွယ်ကူသော လုပ်ရပ်တစ်ခု ဖြစ်သောကြောင့်ပင်။ ထိုအတူ မိသားစုဝင်များနှင့် မိတ်ဆွေသင်္ဂဟ အပေါင်းသည် ကောင်းမွန်သိမ်မွေ့စွာ ဆက်ဆံထိုက်သူများ ဖြစ်သည်။

လူတစ်ဦးသည် ကိုယ်တော်မြတ် ﷺ ထံတော်ပါးသို့ ရောက်လာ၍ ဤသို့ လျှောက်တင်ခဲ့သည်။ အိုး ကိုယ်တော်----- လူများအနက် ကျွန်တော် ကောင်းမွန်စွာ ဆက်ဆံထိုက်သူမှာ မည်သူပါနည်း။ ထိုအခါ ကိုယ်တော်မြတ် ﷺ က အသင်၏မိခင် ဖြစ်သည်ဟု သုံးကြိမ် မိန့်ကြားပြီး နောက် အသင်၏ဖခင် ပြီးနောက် အသင်နှင့် အနီးစပ်ဆုံးသူများ ပင်ဖြစ်သည်ဟု မိန့်ကြားတော်မူခဲ့သည်။

## ▸ ဘိုခါရီနှင့်မွတ်စ်လင်မ်ကျမ်း

ထို့ကြောင့်မိမိသည်ကောင်းမွန်သောဆက်ဆံထိုက်သူများအား လျော့ရိလျော့ရဲစွာဆက်ဆံပြီးတခြားသူများကိုကောင်းမွန်စွာမဆက်ဆံမိစေရန်အထူးသတိပြုအပ်ပေသည်။ထိုသို့ပြုမူဆောင်ရွက်ခြင်းသည်မိမိကိုကို ဆုံးရှုံးနစ်နာအောင်ပြုလုပ်ခြင်း ဖြစ်သကဲ့သို့ မိမိအပေါ်၌ တည်ရှိနေသောဝတ္တရားအားဖောက်ဖျက်ခြင်းလည်းဖြစ်ပေသည်။ကိုယ်တော်မြတ် r ၏လမ်းညွှန်ချက်ကိုမျက်နှာလွှဲခဲပစ်လုပ်ဆောင်ခြင်းလည်း ဖြစ်သည်။

သို့ပါ၍ မိမိသည် ရှရီအဉ်က ပြဆိုထားသော ကျင့်ဝတ်စည်းကမ်းများနှင့်အညီ ဘဝကို ဆောက်တည်ထားနိုင်ရန်နှင့် အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုများ ရရှိရန် အရှင်မြတ်ထံတော်ပါးမှ ကူညီစောင်မမှုများ၊ ဆုမွန်ကောင်းများ တောင်းခံအပ်ပေသည်။ ထိုအရှင်မြတ်သည် သူမွန်သူမြတ်များကို စောင့်ရှောက် ကူညီတော်မူသောအရှင် ဖြစ်တော်မူပေသည်။